# မွတ်စ်လင်မ်တွေဘာကြောင့် “စလာမ်” ပေးကြတာလဲ

မွတ်ဖ်သီ မိုဟာမ္မဒ် အာစွင်းမ်
(နဒ်ဝီ၊ မဇ္ဇာဟေရီ၊ အဗ္ဗလ်ဟာစနီ)

# မာတိကာ

بسم الله الرحمن الرحيم

# အတ်စ္စလာမုအလိုင်းကွန်းမ် ဝရော်မသွလ္လာဟိ ဝဗရကာသုဟူ

အခုလိုမျိုး နှုတ်ခွန်းဆက်သသံကို ကြားလိုက်ရတာနဲ့ တစ်ကမ္ဘာလုံးမှာရှိတဲ့ လူမျိုးတိုင်း၊ ဘာသာဝင်တိုင်းရဲ့ မျက်လုံးထဲမှာ ဘယ်အရာက နေရာယူသွားသလဲ။ အစ္စလာမ်သာသနာတော်နဲ့ ... မွတ်စ်လင်မ်တွေကို တန်းမြင်မိကြမှာ အသေအချာပါပဲ....။ ဒါကြောင့် "စလာမ်" ဆိုတာ အစ္စလာမ်သာသနာတော်ကြီးရဲ့ ခမ်းနားလှတဲ့ မဟာ အမှတ်သညာကြီးတစ်ခု ဖြစ်တယ်လို့ ရဲရဲဝံ့ဝံ့ကြေညာနိုင်ပါတယ်။

လူတိုင်းနဲ့ ရင်းနှီးနေတဲ့ အစ္စလာမ့်နှုတ်ခွန်းဆက်သနည်းဖြစ်တဲ့ စလာမ် အကြောင်းကို ဘာသာခြားတွေအပထား မွတ်စ်လင်မ်တွေထဲ မှာတောင် ဂဃနဏ ခရာစေ့တွင်းကျ သိရှိထားသူတွေ နည်းပါးလှပါ တယ်။ မိရိုးဖလာ နှုတ်ခွန်းဆက်သတဲ့ ဓလေ့တစ်ခုဆိုတာလောက်ပဲ သိထားကြသူများပြီး နည်းနည်းပိုလေ့လာသူများကတော့ စလာမ်ရဲ့ အဓိပ္ပါယ်ကိုသိကြမယ်။ တစ်ချို့ကတော့ စလာမ်ဆိုင်ရာ ပညတ်ချက် အချို့ကို လေ့လာရှာဖွေထားမယ်။ စလာမ်ရဲ့အနှစ်သာရ၊ ရည်ရွယ်ချက်၊ စတင်ဖြစ်ပေါ်လာပုံ၊ မည်သည့်ကာလနှင့် ဒေသများအထိ ကျယ်ပြန့်နေ ကြောင်း၊ မည်မျှအရေးပါကြောင်း၊ ကုရ်အာန်ကျမ်းတော်မြတ်လာ အာယသ်တော်များနှင့် ဟဒီးဆ်တော်များ၏ အထောက်အထားများ၊ ပညာရှင်ကြီးများနှင့်အဆိုအမိန့်များ၊ စလာမ်၏ အိပ်မက်သဘောများ၊ ဖုန်းနှင့် social midea များ၊ sms များဖြင့် စလာမ်ပေးခြင်း၊ ယူခြင်း ဆိုင်ရာပညတ်ချက်များ စသည်တို့ကိုတော့ သိရှိသူ အလွန်နည်းပါးလှ

ပါတယ်။ အစ္စလာမ့် မဟာအမှတ်သညာကြီးတစ်ခုဖြစ်တဲ့ စလာမ် အကြောင်းကို အစ္စလာမ်ဘာသာဝင် မွတ်စ်လင်မ်တိုင်း သိရှိထားပြီး မျိုးဆက်သစ်များကိုလည်း လက်ဆင့်ကမ်းပေးရန် အလွန်အရေးကြီး တဲ့ တာဝန်တစ်ရပ်ဖြစ်လို့ လာခဲ့ပါပြီ။

ဒီသမိုင်းပေးတာဝန်ကြီးကို ဆောင်ရွက်ဖို့ အလ္လာဟ်အရှင်မြတ် ဟာ ကျွန်တော်၏ချစ်မိတ်ဆွေ မောင်လာနာ၊ ကာရီ၊ မွဖ်သီ၊ ဟာဖိဇ် မုဟမ္မဒ် အာဆွင်းမ် ကို သောင်ဝ်ဖီးက်(မဇ္ဇာဟေ့ရီ၊ နဒ်ဝီ၊ အဗ္ဗလ်ဟာစနီ) စွမ်းအား ချီးမြှင့်တော်မူခဲ့ပါတယ်။ အလ်ဟမ်းဒို့လစ်လ္လာဟ် ဆရာသခင် ဟာ ကျမ်းများစွာကို ကိုယ်တိုင်ပြုစုခြင်း၊ ဘာသာပြန်ဆိုခြင်းများ ဆောင်ရွက်ခဲ့သူပီပီ စလာမ်အကြောင်းကို သုတေသနစာတမ်းတစ်ခု ပမာ ကျစ်လျစ်ခိုင်မာပြီး တိကျတဲ့ ကျမ်းအကိုးအကားစုံလင်စွာနဲ့ ပြုစု တင်ပြထားပါတယ်။ ဒီကျမ်းကို ဖတ်ရှုလေ့လာပြီးတာနဲ့ စလာမ်ကို မြင်ထားတဲ့ သင့်ရဲ့အတွေးအမြင်တွေကိုတောင် လုံးဝ ပြောင်းလဲသွား စေနိုင်လောက်အောင် ထိရောက်တဲ့အကြောင်း သတင်းကောင်းကြို တင်ပါးလိုက်ပါရစေ။

အို အလ္လာဟ်အရှင်မြတ် ဤကြိုးပမ်းမှုလေးကို ကိယာမသ်နေ့- တိုင် ပေါက်ဖွားလာကြမည့် နောင်မျိုးဆက်များစွာတိုင်အောင် အကျိုးခံစားနိုင် စွမ်းချီးမြှင့်တော်မူပါ။ (အာမီးန်)

မော်လဝီမုဟမ္မဒ်ဘင်န်အီဗ်ရာဟီးမ်
(Al-Kausari)

بسم الله الرحمن الرحيم

# စွန္နသ်တော်များသို့ တမ်းခြင်း

ယနေ့ကမ္ဘာနှင့်အဝှမ်းတွင် Covid-19 ကြောင့် စိတ်ခုတ်ကျမှုများ၊ စိုးရိမ်ပူပန်မှုများ လွှမ်းမိုးလျှက်ရှိနေသည်။ ဒုတိယကမ္ဘာစစ်ကြီးပြီးနောက် ဤသို့သောအခြေအနေဆိုးသည် ပထမဆုံးအကြိမ်ပြန်လည်ခံစားရသည် ဟုဆိုရပေမည်။ အချို့က ဟာဇရသ်နူးဟ် ﷺ ခေတ် ရေလွှမ်းမိုးမှုပြီးနောက် တစ်ကမ္ဘာလုံးနှင့်သက်ဆိုင်သည့် ဒုတိယဖြစ်ရပ်ဟုပင် ပြောဆိုနေကြသည်။

ထိုစိုးရိမ်ပူပန်မှုများနှင့်အတူ ကျွန်ုပ်တို့မွတ်စ်လင်မ်တို့သည်လည်း အချင်းချင်းလက်ဆွဲနှုတ်ဆက်ခြင်း စသည့်များစွာသော စွန္နသ်တော်များကို အကောင်အထည်ဖော်ရန် ခက်ခဲသွားရတော့သည်။ အချင်းချင်းလက်ဆွဲနှုတ်ဆက်ခြင်း၊ ဗလီဝတ် ကျောင်းတော်များတွင် သွားရောက်ဝတ်ပြုခြင်း၊ ချိုသာသောအပြုံးများ ဖြင့်တွေ့ဆုံခြင်းစသည် ဖြင့် .....

ဤသို့သောအခြေအနေတွင်လည်း ကျွန်ုပ်တို့၏ ကိုယ်နှုတ်နှလုံး (၃) ပါးလုံးကို ငြိမ်းချမ်းမှုပေးနိုင်မည့် စွန္နသ်တော်တစ်ခုကို ကျွန်ုပ်တို့ ပိုင်ဆိုင်နေဆဲဖြစ်ပါသည်။ ထိုစွန္နသ်တော်မှာ စလာမ်မေတ္တာပို့သခြင်း ဖြစ်သည်။

ဤအချိန်တွင် အများဆုံးပြောဆိုနေရမည်မှာ ငြိမ်းချမ်းမှုများ ဆောင်ကြဉ်းလာမည့် စလာမ်အကြောင်း၊ ကျွန်ုပ်တို့၏ ပူဆွေးသောကများကို ကုစားပေးမည့် စလာမ်အကြောင်း၊ကျွန်ုပ်တို့ရင်ခွင်တွင်တောက်

လောင်နေသော သောကမီးကို ငြိမ်းအေးစေမည့်စလာမ်အကြောင်းသာ လျှင်ဖြစ်သည်။

ထို့ကြောင့် အစ္စလာမ်သာသနာတော်တွင် စလာမ်၏ အရေးပါပုံ၊ စလာမ်၏အနှစ်သာရများ၊ အာနိသင်များ၊ တမလွန်တွင်ရှင်သန်နေမည့် စလာမ်၏အစွမ်းများ စသည်တို့ကို ကုရ်အာန်၊ ဟဒီးဆ်နှင့်ဆွဟာဗာ ကြီး တို့၏လက်တွေ့ဘဝမှ သင်ခန်းစာများ၊ ဖေကဟ်ကျမ်းအစောင် စောင်တွင်ရေးသားဖော်ပြထားသည့် စလာမ်ဆိုင်ရာအမိန့်ပညတ်ချက် များနှင့် လမ်းညွှန်ချက်များကို ကိုးကားပြီး မွတ်စ်လင်မ်ညီနောင်များ အတွက် အားဆေးတစ်ခွက်အဖြစ် တင်ဆက်လိုက်ပါသည်။

ဤကျမ်းငယ်ဖြစ်မြောက်ရေးအတွက် တိုက်တွန်းခဲ့သော ဦးရီး ဟာဂျီမုဟမ္မဒ်ဆိဒ္ဒီးက်၊ အဘက်ဘက်မှကူညီပေးခဲ့သောပညာရှင်များ၊ မှီးငြမ်းကျမ်းများကို ရေးသားပြုစုခဲ့သည့် ပညာရှင်ကြီးများ၊ အထူးသဖြင့် اسلام کا نظام سلام ومصافحہ ကျမ်းရှင် မုဖ်သီ သဗ်ရေးဇ် အာလမ် ဟလီမီ၊ ကာစေ့မီ)၊ ထိုကျမ်းများကို ပို့ပေးသော ကျွန်တော်၏ ချစ် မိတ်ဆွေ မုဖ်သီရှာဟိဒ်အလ်ကောင်ဆရီ၊ ရဟ်မာနီတို့အား ကျေးဇူးမှတ် တမ်းတင်အပ်ပါသည်။ အရှင်မြတ်ကျေးဇူးရှင်အားလုံးကို နှစ်ဘဝလုံး တွင် ကောင်းသောအစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။

စာအုပ်၏ lay out ပိုင်းကို အပြည့်တာဝန်ယူပေးပြီး ပါရမီဖြည့် ကူညီပေးလေ့ရှိသော နောင်တော်များ ဖြစ်သည့် မော်လာနာ မုဟမ္မဒ် အလ်ကောင်ဆရီ၊ မုဖ်သီ အဗ်ဒုလ်ဂနီ(နဒ်ဝီ၊ မဇ္ဇာဟော့ရီ)နှင့် စာလုံး

ပေါင်းသတ်ပုံများကို ဂရုတစိုက် စစ်ဆေးပေးခဲ့သော ဆရာ မုဟမ္မဒ် ဇကရီယာ(ခ)ကိုမင်း(B.A his)နှင့် နောင်တော် မော်လာနာ စိုင်ယစ်ဒ် မုဟမ္မဒ် ဟာစံရှား (ဟိုစိုင်နီ၊အလ်ကောင်ဆရီ)တို့ကိုလည်း ကျေးဇူး အထူးတင်ရှိပါကြောင်းနှင့်အရှင်မြတ်ကောင်းသော အစားများ ချီးမြှင့် ပေးသနားတော်မူပါစေဟု ဆုမွန်ဒိုအာပြုအပ်ပါတယ်။

ထို့အတူ ကျွန်ုပ်ဘဝတွင် စလာမ်ပေးနှင့် ပထမဆုံးမိတ်ဆက် ပေးခဲ့ပြီး စလာမ်ချစ်စိတ်များနှလုံးတွင် အမြစ်တွယ်စေခဲ့သော မိခင်မွန် ကြီး ချမ်းမြေ့ကြည်သာ (သာစည်)နှင့် ဘဝခရီးလမ်းတစ်လျှောက် စလာမ်နှင့်ပတ်သက်သည့် အကြောင်းအရာများကို ရှင်းလင်းတင်ပြ ကာ သွန်သင်တိုက်တွန်းခဲ့သော ကျေးဇူးရှင်ဆရာကြီးများအားလုံးကို ဤကျမ်းငယ်ဖြင့် မှတ်တမ်းတင် ဂုဏ်ပြုအပ်ပါသည်။

ဖတ်ရှုသူများမငြီးငွေ့စေရန် စကားပြောပုံစံဖြင့်သာ ရေးသား လိုက်ပါသည်။

အရှင်မြတ်အားလုံးကို လက်တွေ့လုပ်ဆောင်နိုင်စွမ်းချီးမြှင့် ပေးသနားတော်မူပါစေ။ အာမီးန်

မုဟမ္မဒ်အာစွင်းမ် (နဒ်ဝီ၊အဇ္ဇလ်ဟာစနီ၊မဇ္ဇာဟေ့ရီ)
ဟစ်ဂျ်ရီ(၁၄၄၁)ခု၊ရမ်ဇလမြတ်(၁၂)ရက်(၂၀၂၀)ခုနှစ်၊မေလ(၅)ရက်

## ဟာဇရသ်မော်လာနာ စိုင်ယစ်ဒ်ဘောလားလ်အဗ်ဒုလ်ဟိုင်ယ် (အလ်ဟာစနီ၊နဒ်ဝီ)သခင်၏ကျမ်းမှ အမှတ်တရ

### စလာမ်(မေတ္တာ)၏ ပတ်ဝန်းကျင်တည်ထောင်ခြင်း

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «أَفْشُوا السَّلَامَ بَيْنَكُمْ».(رواه مسلم في كتاب الطهارة، باب بيان أنه لا يدخل الجنة إلا المؤمنون).

အသင်တို့သည် မိမိတို့အတွင်းစလာမ်(မေတ္တာပို့သခြင်း)ကိုပြန့်ပွား အောင်ပြုလုပ်ကြကုန်။

### ရှင်းလင်းချက်

လောကရှိ တိုးတက်ဖွံ့ဖြိုးသော လူမျိုးစုတိုင်းသည် အချင်းချင်း တွေ့ဆုံချိန် ချစ်ခင်ခြင်း၊ ဂုဏ်ပေးလေးစားလိုခြင်းနှင့် အကောင်းလို လားခြင်းကို သက်သေထူရန်(သို့)တစ်ဖက်လူနှင့်ရင်းနှီးမှုရရန်နှင့်ပျော် ရွှင်စေရန် သီးသန့်နှုတ်ခွန်းဆက်စကားတစ်ခု ပြောဆိုသည့်ဓလေ့ရှိခဲ့ သည်။

ကျွန်ုပ်တို့နဗီတမန်တော်မြတ်(ﷺ)က اَلسَّلاَمُ عَلَيْكُمْ (အသင်တို့အပေါ် ငြိမ်းချမ်းသာယာမှုအပေါင်း ခညောင်းပါစေ)ဟု နှုတ်ခွန်းဆက်သရန် လေးနက်စွာ မိန့်မှာထားပေသည်။ ဤနှုတ်ခွန်းဆက်စကားထက် ပိုမို ပြီး အချစ်သက်သေထူပြနိုင်မည့်စကားလည်း မရှိနိုင်ပါ။

ဤနှုတ်ခွန်းဆက်စလာမ်တွင်အကောင်းဆုံးသော ဆုမွန်များပါရှိနေ သည်။ သို့သာမက ငယ်ရွယ်သူများအား ကြင်နာခြင်း၊ သက်ကြီးရွယ်အို

များအား ဂုဏ်ပေးလေးစားခြင်းများသည်လည်း ထိုနှုတ်ခွန်းဆက်စကားတွင် ကိန်းအောင်းနေသည်။ ထို့အတူ اَلسَّلامُ ဟူသောပုဒ်သည် အရှင်မြတ်၏ ဂုဏ်တော်များအနက်တစ်ခုဖြစ်သည်။ မြင့်မြတ်တော်မူသော အရှင်မြတ်က နဗီတမန်တော်များအတွက်လည်း ဤ اَلسَّلامُ ဂုဏ်ပုဒ် အားချစ်ခြင်းမေတ္တာအပြည့်ဖြင့် ဂရုတစိုက်အသုံးပြုထားတော်မူသည်။

တွေ့ဆုံရသည့်ညီနောင်သည် အစကတည်းက သိရှိပြီးဖြစ်နေပါကလည်း စလာမ်ပေးခြင်းဖြင့် အချစ်များပိုတိုးလာမည်။ ဤနှုတ်ခွန်းဆက်စကားကြောင့်တွေ့ဆုံသူ၏နှလုံးသားတွင်ယုံကြည်မှုများ၊ အကောင်းအတွက် မျှော်လင့်ချက်များလည်း ကိန်းအောင်းလာမည်ဖြစ်သည်။

အချုပ်ဆိုရသော် စလာမ်သည် အစ္စလာမ်သာသနာတော်၏ အထိမ်းအမှတ်တစ်ခုလည်းဖြစ်သည်။ စလာမ်သည် မွတ်စ်လင်မ်အချင်းချင်း ဆောင်ရွက်အပ်သည့် ဝတ္တရားတစ်ရပ်လည်းဖြစ်သည်။ ကိုယ်တော်မြတ် (ﷺ) က စလာမ်၏ မြောက်မြားစွာသော အကျိုးကျေးဇူးများကိုလည်းတင်ပြထားသည်။ မွတ်စ်လင်မ်အချင်းချင်း ချစ်ခင်မှုများတည်ဆောက်ရန် အကြောင်းခံလည်းဖြစ်သည်။ စလာမ်ပေးခြင်းသည် ဂျန္နသ်ဝင်ရန် အကြောင်းခံလည်းဖြစ်သည်။ စလာမ်စတင်ဆက်သသူသည် အရှင်မြတ်နှင့်ပိုမိုနီးကပ်ခွင့်ရမည်ဖြစ်ပြီး အရှင့်ကရုဏာဖြင့် အထိုက်သက်ဆုံးသူအဖြစ် သတ်မှတ်ခံရသည်။ စလာမ်သည် မာန်မာနကို ကုသရန် ဆေးစွမ်းကောင်းတစ်လက်လည်းဖြစ်သည်။

ကိုယ်တော်မြတ် (ﷺ) က “ اَلسَّلَامُ عَلَيْكُمْ ဟုဆက်သသူ အတွက် ကောင်းမှု (၁၀) ခုရေးမှတ်ခြင်းခံရမည်။ وَرَحْمَةُ اللهِ ဟုဆက်သသူအတွက် ကောင်းမှု (၂၀)၊ وَبَرَكَاتُه ဟုပါတိုးပြီး ဆက်သသူအတွက် ကောင်းမှု (၃၀) ရေးမှတ်ခြင်းခံရမည်” ဟုအမိန့်ရှိ ထားတော်မူသည်။

စလာမ်ဆက်သခြင်း၏ ပညတ်ချက်များအနက်တစ်ခုမှာ အကာအကွယ်တစ်ခု ခြားသွားလျှင်သော်လည်းကောင်း၊ အချိန်အနည်းငယ်အတွင်း ပြန်လည်တွေ့ဆုံခွင့်ရလျှင်သော်လည်းကောင်း အသစ်တဖန် စလာမ်ဆက်သခြင်းဖြစ်သည်။

တစ်ဦးတည်းရှိသူက လူအုပ်စုအပေါ်၊ လူနည်းစုက လူများစုအပေါ်၊ စီးနင်းသူက ခြေလျင်လျှောက်သူအပေါ်၊ ရောက်လာသူများက ထိုင်နေသူများအပေါ် စလာမ်ဆက်သရမည်ဖြစ်သည်။ ထို့အတူ ခွဲခွာချိန် စလာမ်ဆက်သခြင်းသည်လည်း စွန္နသ်ဖြစ်သည်။

စလာမ်ဆက်သရာတွင် မိမိ၏စလာမ်သံကြောင့် အိပ်စက်နေသူလည်း နိုးမသွားစေရန်၊ တစ်ဦးတစ်ယောက်ကို အနှောက်အယှက်မဖြစ်စေရန် အထူးသတိထားရမည်။ အရှင်မြတ်ကျွန်ုပ်တို့အားလုံးကို ဤမျှချစ်ဖွယ်ကောင်းလှသည့် ဓလေ့ကောင်းများကို သင်ယူနိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။(အာမီးန်)

## စလာမ်နိဒါန်း

السلام عليكم ورحمة الله وبركاته

ကျွန်ုပ်တို့အားလုံးရင်းနှီးကျွမ်းဝင်နေတဲ့ နှုတ်ခွန်းဆက်သ သံလေးပါ။ "အသင်တို့အပေါ် အရှင်မြတ်ဘက်တော်မှ ငြိမ်းချမ်းသာယာမှုအပေါင်း၊ ရဟ်မသ် ကရုဏာအပေါင်း၊ မင်္ဂလာအပေါင်း ခညောင်းပါစေသား"တဲ့။ ဒီနှုတ်ခွန်းဆက်သသံနဲ့ အချက်(၃)ချက်ကို အတည်ပြုလိုက်ခြင်းလည်း ဖြစ်ပါတယ်။

**ပထမတစ်ချက်ကတော့** ဘေးရန်ခပ်သိမ်းငြိမ်းစေဖို့၊ဒုက္ခအပေါင်း ချုပ်ငြိမ်းစေဖို့ တောင်းဆုတွေပါနေပါတယ်။

**ဒုတိယတစ်ချက်ကတော့** စလာမ်ပို့သ သူဟာ တခြားညီနောင်တစ်ဦးကို အသက်၊အိုးအိမ်၊စည်းစိမ်၊ဂုဏ်သိက္ခာစတဲ့အရာတိုင်းမှာ ငြိမ်းချမ်းမှုတွေ သွန်းလောင်းပေးပါမယ်ဆိုတဲ့ ကတိတစ်ခုလည်း ပါဝင်နေပါတယ်။

**တတိယတစ်ချက်ကတော့** မွတ်စ်လင်မ်အချင်းချင်းကြားမှာ ချစ်ပန်းခင်းတစ်ခုရဲ့ မျိုးစေ့ချလိုက်တာပါပဲ။

## စလာမ်ဆိုသည်မှာ

အမှန်တော့ စလာမ်ဆိုတာ အရှင်မြတ်ရဲ့ ဂုဏ်တော်(၉၉)ပါးအနက်က ဂုဏ်တော်တစ်ရပ်ပါပဲ။ ဒုက္ခတွေ့တဲ့အချိန်တိုင်း၊ ဆောက်တည်

ရာမရဖြစ်နေတိုင်း يا سلام (ယာစလားမ့် - အို ငြိမ်းချမ်းမှုအပေါင်း ချီးမြှင့်တော်မူသောအရှင်)ဆိုပြီး တသဖို့ မမေ့စေချင်ပါဘူး။

ဒီအချက်ကို အခြေခံပြီး အေမာမ်ဗုခါရီသခင်ကြီးက မိမိရဲ့ ဆွဟီးဟ်ဗိုခါရီကျမ်းမှာ သရှဟ်ဟွဒ်ရဲ့အမိန့်တော်ကို ဖော်ပြရင်း ခေါင်းစဉ်တပ်ထားပါသေးတယ်။ စူရဟ်ဟရှရ်ရဲ့ နောက်ဆုံး(၃) အာယသ်ဖတ်တိုင်း الملك القدوس السلام ဆိုတဲ့အာယသ်လေးနဲ့ လူကြီးမင်းတို့ ရင်းနှီးကြမှာပါ။

ကျွန်တော်တို့အလွန်ရင်းနှီးခဲ့တဲ့ စလာမ်၊ ကျွန်တော်တို့ငယ်ငယ်က အမြတ်တနိုး အိမ်ဝင်၊အိမ်ထွက် ၊ အိပ်ရာဝင်အိပ်ရာထ ပေးခဲ့ဖူးတဲ့ စလာမ်နဲ့ ဒီနေ့မျိုးဆက်သစ်တွေ ဝေးကွာသွားရတာတော့ စိတ်မကောင်းစရာပါပဲ။

စလာမ်ရဲ့ ဒုတိယအဓိပ္ပာယ်တစ်ခုကတော့ ''အရှင်မြတ် အသင်နဲ့အတူရှိနေပါတယ်။ အသင့်ကို စောင့်ရှောက်နေပါတယ်''ဆိုပြီး ဖြစ်ပါတယ်။

📖အွမ်ဒသွလ်ကာရီကျမ်း ၊ အတွဲ(၁၅)၊စာ(၃၅၁)

## စလာမ်ရဲ့သမိုင်း

လူ့သမိုင်းစကတည်းက စလာမ်ရဲ့သမိုင်းကလည်း စတင်ခဲ့တာဖြစ်ပါတယ်။ အေမာမ်ဗိုခါရီ ﷺ က မိမိရဲ့ကျမ်းမှာ "စလာမ် စတင်ခြင်းသမိုင်း" ဆိုတဲ့ ခေါင်းစဉ်အောက်မှာ အဗူဟိုရိုင်ရဟ် ﵁ ဆင့်ပြန်ထားတဲ့ ဟဒီးဆ်တစ်ပုဒ်ကို ဖော်ပြထားပါတယ်။ ကိုယ်တော်မြတ် ﷺ မိန့်တော်မူခဲ့တယ် "မြင့်မြတ်တော်မူသော အရှင်မြတ်က

ဖခင်ကြီး အာဒမ် ﷺ ကို ဖန်ဆင်းပြီးတဲ့အချိန်မှာ" ထိုင်နေတဲ့ ဖရစ်ရှ်သာ အုပ်စုကြီးဆီသွားရောက်ကာ السلام عليكم ဆိုပြီး နှုတ်ခွန်းဆက်သလိုက်ပါ၊ သူတို့ကအသင့်ကို ဘယ်လိုအဖြေပေးသလဲဆိုတာကိုပါ ဂရုတစိုက် နားထောင်ခဲ့ပါ။ သူတို့ဖြေကြားတဲ့အတိုင်းပဲ အသင်နဲ့၊ အသင့်သားစဉ်မြေးဆက်တွေဟာ အချင်းချင်း နှုတ်ခွန်းဆက်သကြရမှာဖြစ်တယ်လို့ မိန့်တော်မူတယ်။ ထိုအခါ လူသားတို့၏ဖခင်ကြီးက ဖရစ်ရှ်သာအပေါင်းကို السلام عليكم လို့နှုတ်ခွန်းဆက်သလိုက်ရာ ဖရစ်ရှ်သာကြီးများက السلام عليك ورحمة الله ဆိုပြီး အဖြေပေးခဲ့ကြပါတယ်။

📖ဗိုခါရီကျမ်း၊ဟဒီးဆ်အမှတ် (၆၂၂၇)

## မှတ်သားရန်

(၁) ဒီဟဒီးဆ်တော်မြတ်ကနေ စလာမ်ပေးခြင်းရဲ့ စွန္နသ်ဟာ မိုးကောင်းကင်ပေါ်မှာကတည်းက စတင်ခဲ့တာဖြစ်ပြီး၊ တမန်တော်ကြီး အာဒမ် ﷺ နဲ့ ဖရစ်ရှ်သာအပေါင်းရဲ့ နှုတ်ခွန်းဆက်စကားလည်း ဖြစ်ကြောင်း အတိအလင်းသိရှိလိုက်ရပါတယ်။

📖နွတ်ဇ်ဟာသွလ် မွသ်သကီးန်ကျမ်း၊ အတွဲ(၁)၊ စာ(၅၇၇)

(၂) ဤနည်းအတိုင်း စလာမ်ပေးခြင်းဟာ ကောင်းကင်ကျ သာသနာတော်တိုင်းမှာလည်း ရှိကြောင်း သိရှိရပါတယ်။ အချုပ်ဆိုရသော် စလာမ်ပေးခြင်း၊ပြန်ခြင်းစတဲ့ စွန္နသ်တော်ဟာ လွန်လေပြီးတဲ့ ကောင်းကင်ကျ သာသနာတော်တွေမှာရှိခဲ့သလို ဒီအွမ္မသ်ရဲ့

ထူးခြားချက်တစ်ရပ်၊ အထိမ်းအမှတ်တစ်ရပ်လည်း ဖြစ်နေ ကြောင်း သိရှိလိုက်ရပါတယ်။ 📖အိဗ်နေ့မာဂျာကျမ်း ၊ ဟဒီးဆ်အမှတ် (၈၅၆)

## သမိုင်းတစ်လျှောက်မှ နှုတ်ခွန်းဆက်သမှုများကို လေ့လာခြင်း

လောကရှိသာသနာတိုင်းမှာ နှုတ်ခွန်းဆက်သနည်း ကိုယ်စီရှိကြပါတယ်။ အဗူသွာလိဗ်မက္ကီဆိုသော ပညာရှင်ကြီးက မိမိရဲ့ "ကီသား ဗွသ် သဟီယားသ်ကျမ်" မှာ ယင်းတို့ကိုဖော်ပြထားပါတယ်။ "ယဟူဒီ ဘာသာဝင်များဟာ လက်ချောင်းများနဲ့၊ နဆွ်ရာနီဘာသာဝင်များက တော့ လက်ဖဝါးနဲ့ နှုတ်ခွန်းဆက်သကြပါတယ်။

ရှေးယခင်က ပါရှန်းလူမျိုးများမှာ မိမိတို့အကြီးအကဲရှေ့မောက် ဒူးထောက်ခြင်းနဲ့၊ အီသီယိုးပီးယားနိုင်ငံသားများမှာမူ တွေ့ဆုံစဉ် နှလုံး အေးချမ်းစေရန် ရည်သန်ကာ လက်များကို ရင်ဘတ်ပေါ်တင်ခြင်းနဲ့၊ ရောမနိုင်ငံသားများကတော့ နှုတ်ခွန်းဆက်သချိန် ဦးခေါင်းပေါ်ရှိ ဦး ထုပ်၊ ပေါင်းထုပ်စသည်တို့ကို ချွတ်ကာ ဦးညွှတ်ခြင်းနဲ့၊ ယီမင်နိုင်ငံသား များကတော့ လက်ချောင်းများဖြင့် အရိပ်ပြကာ အော်ဟစ်နှုတ်ခွန်း ဆက်ခြင်းတွေနဲ့ အသီးသီး နှုတ်ခွန်းဆက်သကြပါတယ်။"

📖အော်ဝ်ဂျဇွလ် မစာလိက်ကျမ်း၊ အတွဲ(၁၇)၊ စာ(၂၀၇)

ဂျာဟေ့လိယသ်ရှိ အရဗ်တို့ရဲ့ နှုတ်ခွန်းဆက်သခြင်းမှာ أنعم الله بك عينا (အရှင်မြတ် အသင့်ရဲ့ ဟဒယနှလုံးကိုရွှင်ပြုံးစေတော်မူပါ)

(သို့) أنعم صباحا (အသင်ရဲ့နံနက်ခင်း ကောင်းမွန်ပါစေ) စသဖြင့် နှုတ်ခွန်းဆက်သကြပါတယ်။

📖အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ်(၅၂၃၇)

မဂျူစီမီးကိုးကွယ်သူများကတော့ "နှစ်တစ်ထောင်အသက်ရှည်ပါစေ" လို့ နှုတ်ခွန်းဆက်သကြပါတယ်။

📖ဟွဂျ်ဂျာသွလ္လာဟိလ်ဘာလိဂဟ်ကျမ်း၊ အတွဲ(၂)၊စာ(၁၉၆)

ဟိန္ဒူဘာသာဝင်များကတော့ "နမတ်စ်သေး၊ နမတ်ရ်ကား၊ အချို့က ရားမ်ရားမ်" စသဖြင့် နှုတ်ခွန်းဆက်ကြပါတယ်။

အနောက်နိုင်ငံသားများကတော့ အချိန်အပိုင်းအခြားပေါ် အခြေခံပြီး Good Morning, Good Afternoon, Good Evining, Good Night စသဖြင့် နှုတ်ခွန်းဆက်ကြပါတယ်။

📖မအာရေ့ဖွလ်ဟဒီးဆ်ကျမ်း၊ အတွဲ(၆) စာ(၁၅၀)

## အစ္စလာမ့်နှုတ်ခွန်းဆက်စလာမ်ရဲ့ အလှတရားများ

ဟဇရသ် မော်လာနာမုဖ်သီရှဖီးအ် ﷺ ﷺ က မိမိရဲ့ မအာရေ့ဖွလ် ကုရ်အာန်ကျမ်း အတွဲ(၂)၊ စာ(၅၀၁)မှာအောက်ပါအတိုင်း ရေးသားထားပါတယ်။ "လောကရှိယဉ်ကျေးသော လူမျိုးတိုင်းဟာ အချင်းချင်း တွေ့ဆုံချိန် အချစ်သက်သေထူရန်၊ ရင်းနှီးမှုရယူရန် နှုတ်ခွန်းဆက်စကား ပြောကြားလေ့ရှိကြပါတယ်။ အားလုံးကို ခြုံငုံသုံးသပ်ကြည့်လိုက် မယ်ဆိုရင်တော့ အစ္စလာမ့်ရဲ့ နှုတ်ခွန်းဆက်စလာမ်ဟာ အလွန်ကို ပြီးပြည့်စုံလှပါတယ်။ အစ္စလာမ့် နှုတ်ခွန်းဆက်

စလာမ်မှာ အချစ်သက် သေထူခြင်းတင်မကဘဲ အချစ်တာဝန်ကျေပွန် ခြင်းတွေလည်း ပါဝင်နေပါတယ်။ ဘာကြောင့်လဲဆိုတော့ အရှင်မြတ် ထံတော်ပါးကနေ အလုံးစုံသော ဒုက္ခ၊ သုက္ခတွေကနေ ငြိမ်းချမ်းမှု တောင်းဆိုခြင်းတွေ ပါဝင်နေပါတယ်။

သက်တော်ရာကျော်ရှည်စေဖို့သက်သက်မဟုတ်ဘဲ စင်ကြယ် တဲ့ဘဝ တည်ဆောက်နိုင်ဖို့ပါ တောင်းဆုပြုပေးလိုက်ခြင်းတွေကို တွေ့ ရပါတယ်။ ဒါတင်မကသေးဘူး ကျွန်ုပ်တို့အားလုံးဟာ အရှင်မြတ်ကို သာ လိုလားတောင့်တနေသူတွေဖြစ်နေတယ်၊ အရှင့်အမိန့်မပါဘဲ ဘယ်သူ့ကိုမှ ကောင်းကျိုးဆိုးကျိုးတွေမသက်ရောက်နိုင်ပါဘူး။ ဆိုတဲ့ အတွေးတွေ ပါဝင်နေပါတယ်။ ဒီလိုနဲ့ အစ္စလာမ့်ရဲ့ နှုတ်ခွန်းဆက် စလာမ်ဟာ အေဗာဒသ်တစ်ခုဖြစ်သလို၊ မွတ်စ်လင်မ်ညီနောင်အချင်း ချင်း အရှင်မြတ်ကို သတိရစေလိုက်ခြင်းတွေလည်းပါဝင်နေပါတယ်။ အချုပ်ဆိုရရင် အစ္စလာမ့်နှုတ်ခွန်းဆက်စလာမ်ဟာ ပြည့်စုံကုံလုံလှပြီး အောက်ပါအချက်တွေကို ခြုံငုံနေပါတယ်။ ထိုစလာမ်ထဲမှာ .....

၁။ အရှင့်ကိုသတိရတသခြင်း

၂။ မိမိမွတ်စ်လင်မ်ညီနောင်တွေနဲ့ ရင်းနှီး၊ ချစ်ခင်ခြင်း

၃။ သတိပေးစကားဆိုခြင်း

၄။ ညီနောင်များကို အကောင်းဆုံးဆုမွန်ပေးခြင်း

၅။ မိမိညီနောင်ကို ကိုယ်၊ နှုတ်၊ နှလုံး သုံးပါးလုံးနဲ့ ဒုက္ခပေးမည် မဟုတ်ကြောင်း ကတိဆိုခြင်း စသည်တို့ပါဝင်နေပါတယ်။”

## ကျမ်းမြတ်ကုရ်အာန်နှင့် မြတ်စလာမ်

စလာမ်ဆက်သခြင်းနဲ့ ပတ်သက်ပြီး ကျမ်းတော်မြတ်ကုရ်အာန်ရဲ့(၂၄)နေရာကျော်မှာ မိန့်ဆိုချက်တွေလာရှိထားပါတယ်။ ထိုမိန့်ဆိုချက်တွေအနက်အချို့ကို တင်ပြလိုက်ပါတယ်။ လေ့လာကြည့်ကြပါစို့...

## (၁) အိမ်ဝင်တိုင်း စလာမ်ပေးကြစို့ ....

﴿فَإِذَا دَخَلْتُم بُيُوتًا فَسَلِّمُوا عَلَىٰٓ أَنفُسِكُمْ تَحِيَّةً مِّنْ عِندِ ٱللَّهِ مُبَـٰرَكَةً طَيِّبَةً ۚ كَذَٰلِكَ يُبَيِّنُ ٱللَّهُ لَكُمُ ٱلْـَٔايَـٰتِ لَعَلَّكُمْ تَعْقِلُونَ ﴿٦١﴾﴾ [النور: ٦١].

စူရဟ်နူးရ် အာယသ်(၆၁)မှာ မြတ်ရှင်အလ္လာဟ်မိန့်နေပါတယ်၊ “အသင်တို့ အိမ်တွေထဲကိုဝင်ရင် မိမိတို့ကိုယ်များကို အချင်းချင်း စလာမ်မေတ္တာပို့သကြပါ။ (စလာမ်မေတ္တာပို့သခြင်းဟူသည်) အလ္လာဟ် အရှင်မြတ်ထံတော်မှ (သတ်မှတ်ပြဋ္ဌာန်းအပ်သော) နှုတ်ခွန်းစကား၊ ဆုတောင်းပတ္တနာပြုချက် ဖြစ်သလို ကောင်းချီးမင်္ဂလာ နှင့်လည်းပြည့်စုံသောကြောင့် ကောင်းမြတ်လှပါတယ်။ အလ္လာဟ်အရှင်မြတ်က ဤအတိုင်းပင် အသင်တို့အတွက် အမိန့် ပညတ်တော် များကို အသင်တို့ နားလည်ကျင့်သုံးရန် ထုတ်ဖော်မိန့်ကြားတော် မူသည်။”

ဒီအာယသ်တော်ကနေ အချက်(၃)ချက်ကို သိရှိရပါတယ်။

- လူသားဟာ အိမ်ဝင်တိုင်း အိမ်သားများကို စလာမ် မေတ္တာပို့သနေရမယ်။

- အိမ်မှာတစ်ဦးမှမရှိရင်လည်း အခြားသောအဖန်ဆင်းခံတွေ ရှိနေတယ်။ သူတို့အပေါ် စလာမ်မေတ္တာပို့သလိုက်ရမယ်။
- စလာမ်ဆိုတာအရှင်မြတ်ဘက်ကလာတဲ့ သန့်ပြန့်စင်ကြယ် ပြီး မင်္ဂလာရှိလှတဲ့ နှုတ်ခွန်းဆက်သ သံပါပဲ။

## (၂) အကောင်းဆုံးသောစလာမ်နဲ့ တုံ့ပြန်ပါ

စူရဟ်နေစာအ်ိ အာယသ်နံပါတ်(၈၆)မှာ စလာမ်ပေးလာရင် တုံ့ပြန်နည်းတွေကို အရှင်မြတ်က သင်ပေးထားပါသေးတယ်။

﴿ وَإِذَا حُيِّيتُم بِتَحِيَّةٍ فَحَيُّواْ بِأَحۡسَنَ مِنۡهَآ أَوۡ رُدُّوهَآۗ إِنَّ ٱللَّهَ كَانَ عَلَىٰ كُلِّ شَيۡءٍ حَسِيبًا ﴿٨٦﴾ ﴾ [النساء: ٨٦].

"အသင်တို့ကို တနည်းနည်းနဲ့စလာမ်မေတ္တာပို့သပြီး နှုတ်ခွန်း ဆက်လာတဲ့အခါ ထိုနှုတ်ခွန်းဆက်သမှုထက် ပိုမိုကောင်းတဲ့နည်း နဲ့ပြန်လည်နှုတ်ခွန်းဆက်ပါ။ မဟုတ်ရင်လည်း မိမိတို့နှုတ်ခွန်း ဆက်သခံရသည့်အတိုင်းပဲ ပြန်းလည်တုံ့ပြန်ပေးကြပါ။ မြင့်မြတ် တော်မူသော အရှင်မြတ်ဟာ အရာခပ်သိမ်းတို့ကို စစ်ဆေးတော် မူမည့်အရှင်ဖြစ်တော်မူသည်။"

ဤအာယသ်တော်ကနေ မွတ်စ်လင်မ်တို့ဟာ မေတ္တာတရားကို လက်ကိုင်ထားသူများ၊ ငြိမ်းချမ်းရေးကို ချစ်ခင်မြတ်နိုးသောသူ များဖြစ်ကြောင်း ကောင်းစွာသိရှိရပါတယ်။ စလာမ်မေတ္တာပို့သ သူအား ပြန်လည်တုံ့ပြန်ခြင်းမှာ ဝါဂျိဗ်တာဝန်ဖြစ်ပြီး၊ စလာမ်ပို့သူရဲ့

စလာမ်ထက်ပိုမို ကောင်းမွန်သော စလာမ်မျိုးနဲ့တုံ့ပြန်ရပါမယ်။ စလာမ်ပေးသူက "အတ်စ်လာမို့အလိုင်းကွန်းမ်" ဟုဆိုလျှင် စလာမ် ပြန်သူက "ဝအလိုင်းကွန်မ်စလာမ် ဝရဟ်မသွလ္လာဟိ" ဟုလည်း ကောင်း၊ "အတ်စ်လာမို့အလိုင်းကွန်းမ် ဝရဟ်မသွလ္လာဟိ" ဟု ဆက် သလာလျှင် "ဝအလိုင်းကွန်မ်စလာမ် ဝရဟ်မသွလ္လာ ဟိဝဘရကာႈ သုဟူ" ဟုလည်းကောင်း ပြန်လည်တုံ့ပြန်ခြင်းမျိုးပေါ့။

## (၃) ဂျန္နသ်ထဲထိ ရှိစလာမ်

စလာမ်ဆိုခြင်းဟာ ဂျန္နသ်ထဲမှာပါ ကျန်ရှိနေမယ့် စွန္နသ်တစ်ခုဖြစ် နေတယ်၊ ဒီစွန္နသ်ကို အရှင်မြတ် ဘယ်လောက်တောင် နှစ်သက်လဲ ဆိုတာ အောက်ပါအာယသ်တွေကို လေ့လာပြီး မှန်းဆကြည့်လို့ရ ပါတယ်။ မုအ်မင်န်ဂျန္နသီတွေကို အရှင်မြတ်ကိုယ်တော်တိုင် စလာမ် မေတ္တာပို့သမည့်အကြောင်း စူရဟ်ယာစီးန်၊ အာယသ်(၅၈) မှာ အမိန့် ရှိထားပါတယ်။

﴿ سَلَٰمٌ قَوۡلٗا مِّن رَّبّٖ رَّحِيمٖ ۝٥٨ ﴾ [يس: ٥٨].

"ဖန်ဆင်းမွေးမြူတော်မူသော အလွန်တရာသနားကြင်နာတော် မူသော အရှင်မြတ်ထံတော်မှ "စလာမ်" (ချမ်းမြေ့သာယာစေ)ဟူ၍ မိန့်ကြားတော်မူမည်။"

ဂျန္နသ်ထဲမှာ ဖရစ်ရှ်သာတွေကလည်း ဂျန္နသီတွေကို အောက်ပါ အတိုင်း စလာမ်ဆက်သကြပါလိမ့်မယ်။

(စူရဟ်ရအဒ်-၂၃၊၂၄)ကို လေ့လာကြည့်ပါ။

﴿ سَلَٰمٌ عَلَيۡكُم بِمَا صَبَرۡتُمۡۚ فَنِعۡمَ عُقۡبَى ٱلدَّارِ ٢٤ ﴾ [الرعد: ٢٤].

"၎င်းပြင်မလာအိကဟ်ကောင်းကင်တမန်တို့သည် ထိုသူတို့ထံသို့ တံခါးတိုင်းမှ ဝင်ရောက်ကြပေမည်။ (ယင်းမလာအိကဟ် ကောင်းကင်တမန်များသည် ၎င်းတို့ထံဝင် ရောက်ကြသောအခါ အသင်တို့သည် (လောကီဘဝ၌) ခန္တီတရားထားရှိ၍တည်တံ့ကြံ့ခိုင်စွာ ရှိခဲ့ကြသည့်အတွက် **ငြိမ်းချမ်းသာယာမှုသည် အသင်တို့အပေါ်၌ ကျရောက်ပါစေသား။** ဤတမလွန်ဘဝ၌(အသင်တို့ခံစားကြရမည့်) အကျိုးသည် အလွန်ကောင်းမြတ်လှပေသည်တကား။"

စူရဟ်ဇုမရ်အာယသ်-(၇၃)တွင်လည်း ဂျန္နသ်တံခါးမှူးတို့မှ သက္ကဝါရှင်များကို စလာမ်ဖြင့်သာ ကြိုဆိုကြမည့်အကြောင်း အောက်ပါအတိုင်း တွေ့ရှိရပါတယ်။

﴿ وَسِيقَ ٱلَّذِينَ ٱتَّقَوۡاْ رَبَّهُمۡ إِلَى ٱلۡجَنَّةِ زُمَرًاۖ حَتَّىٰٓ إِذَا جَآءُوهَا وَفُتِحَتۡ أَبۡوَٰبُهَا وَقَالَ لَهُمۡ خَزَنَتُهَا سَلَٰمٌ عَلَيۡكُمۡ طِبۡتُمۡ فَٱدۡخُلُوهَا خَٰلِدِينَ ٧٣ ﴾ [الزمر: ٧٣].

"ထို့မှတစ်ပါး မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ကြောက်ရွံ့ကြကုန်သောသူတို့မှာ ဂျန္နသ်သုခဘုံသို့ အုပ်စုလိုက်၊ အုပ်စုလိုက်ပို့ပေးခြင်းကို ခံကြရပေမည်။ နောက်ဆုံးတွင် ထိုသူတို့သည် ယင်းဂျန္နသ်သုခဘုံသို့ ရောက်ရှိလာခဲ့ကြပေမည်။ ယင်းဂျန္နသ်သုခဘုံ၏ တံခါးများသည် (ယခင်ကတည်းက) ပွင့်လျက်ရှိပေမည်။

၎င်းနောက် ယင်းဂျန္နသ် သုခဘုံကို စောင့်ကြပ်သူ ကောင်းကင်တမန်တို့က ၎င်းတို့အား ချမ်းမြေ့သာယာမှုသည် အသင်တို့အပေါ်ဝယ် ကျရောက်ပါစေသတည်း။ အသင်တို့သည် စင်ကြယ်သန့်ရှင်းခဲ့ကြပြီးဖြစ်ပေရာ ယင်းဂျန္နသ်သုခဘုံသို့ အမြဲထာဝစဉ် နေထိုင်ကြရမည့်သူများအဖြစ် ဝင်ရောက်ကြလေကုန်" ဟုပြောဆိုကြပေမည်။

လူ့လောကမှာ ဧည့်ခံမဏ္ဍာပ်ဆီကြွရောက်လာကြတဲ့ ဧည့်သည်တော်များကို သက်ဆိုင်ရာ ဧည့်ခံကြိုဆိုရေးအဖွဲ့များက ရွှင်ပြုံးသောမျက်နှာနဲ့နှုတ်ခွန်းဆက်သ၊ ခရီးဦးကြိုပြုကြသကဲ့သို့ ကိယာမသ်နေ့မှာလည်း မုစ်လင်မ်သူတော်စင်များ ဂျန္နသ်သို့ဝင်ကြတဲ့အခါ ဂျန္နသ်မှူးများဖြစ်ကြသော ကောင်းကင်တမန်များက ခရီးဦးကြိုပြုကာ မေတ္တာပို့သကြပါမယ်။ နှုတ်ခွန်းဆက်သကြပါမယ်။ ချီးမွမ်းစကားပြောကြားကြမယ်၊ ဂျန္နသ်မှာအမြဲထာဝစဉ် စံမြန်းကြပါကုန်ဟု ကောင်းချီးသတင်းပေးကြပါလိမ့်မယ်။

ဂျန္နသ်ထဲမှာ ဂျန္နသီတို့အချင်းချင်းရဲ့ နှုတ်ခွန်းဆက်သမှုမှာလည်း **စလာမ်**သာလျှင်ဖြစ်မည့်အကြောင်း အောက်ပါအာယသ် တော်များမှ သိရှိရပါတယ်။

စူရဟ်အဟ်ဇာဗ်-အာယသ် (၄၄)တွင် ..

﴿تَحِيَّتُهُمۡ يَوۡمَ يَلۡقَوۡنَهُۥ سَلَٰمٞۚ وَأَعَدَّ لَهُمۡ أَجۡرٗا كَرِيمٗا ﴿٤٤﴾﴾ [الأحزاب: ٤٤].

“၎င်းတို့သည် ထိုအရှင်မြတ်နှင့်တွေ့ဆုံကြသောနေ့တွင် (ထိုအရှင်မြတ်၏) ၎င်းတို့အားနှုတ်ခွန်းဆက်တော်မူမည့်စကားမှာ **“စလာမ်”** ဟူ၍ ပင်ဖြစ်ပေမည်။”

စူရဟ်ဝါကေအေဟ် အာယသ်တော်(၂၅+၂၆)တွင် …

﴿ لَا يَسۡمَعُونَ فِيهَا لَغۡوٗا وَلَا تَأۡثِيمًا ٢٥ إِلَّا قِيلٗا سَلَٰمٗا سَلَٰمٗا ٢٦ ﴾ [الواقعة: ٢٥ – ٢٦].

“ထိုသူတို့သည် ယင်းဥယျာဉ်များ၌ မည်သည့် မရေမရာသော စကားလုံးမျှလည်းကောင်း၊ မည်သည့် အပြစ်ဖြစ်စေသော စကားကိုမျှလည်းကောင်း၊ ကြားရမည်မဟုတ်ပေ။ **“စလာမ်၊ စလာမ်”** (ဘေးရန်ခပ်သိမ်း ကင်းငြိမ်းပါစေ၊ ဘေးရန် ခပ်သိမ်းကင်းငြိမ်းပါ စေ) ဟူ၍ပြောဆိုခြင်းကိုသာလျှင် (ကြားကြရကုန်အံ့သတည်း။)”

ဂျန္နသ်သုခဘုံတွင် ဤလူ့လောကမှာကဲ့သို့ စကားသိမ်၊ စကားဖျင်း ကုန်းချောစကား၊ မုသားစကားစတဲ့ မလျော်ကန်တဲ့ စကားတွေကို အလျှင်းကြားရမှာ မဟုတ်ပါဘူး၊ ဂျန္နသ်သုခဘုံမှာ သုခချည်းတည်ရှိသည်ဖြစ်ရာ သုခကို ဆောင်သည့် သာယာနာပျော်ဖွယ် စကားများကိုသာ ကြားရမှာဖြစ်တယ်။ **'စလာမ်''စလာမ်'**(ဘေးရန်ခပ်သိမ်းကင်းငြိမ်းပါစေ၊ ဘေးရန်ခပ်သိမ်းကင်းငြိမ်းပါစေ) ဟူသော သံသာယာကို အခါခပ်သိမ်း ကြားရပေလိမ့်မယ်။ ဂျန္နသ်သားအချင်းချင်း တွေ့ဆုံကြတဲ့အခါတိုင်းလည်း **စလာမ်၊ စလာမ်** ဟူ၍ပင် ပြောဆိုမေတ္တာပို့သကြပေမည်။ ကောင်းကင်တမန်များကလည်း ဂျန္နသ်သားတို့ကို

**စလာမ်** **စလာမ်** ဟူ၍ပင် ပြောဆိုမေတ္တာပို့ကြမှာဖြစ်ပါတယ်။ အလ္လာဟ်ရှင်မြတ်ထံတော်မှလည်း ဂျန္နသ်သားတို့ကို ယင်း**စလာမ်၊ စလာမ်** တည်းဟူသော သံသာထူးဖြင့်ပင် ဩဘာပေး ချီးမြှင့်မြှောက်စား တော်မူပေမယ်။

ဤသို့ဖြင့် ဂျန္နသ်တစ်ခုလုံးဟာ စလာမ်တည်းဟူသော သံသာယာနဲ့ အခါခပ်သိမ်းငြိမ်းချမ်းလျက်ရှိနေမှာဖြစ်ပါတယ်။

စူရဟ်အိဗ်ရာဟီးမ် အာယသ်-(၂၃)တွင်

﴿ وَأُدْخِلَ ٱلَّذِينَ ءَامَنُوا۟ وَعَمِلُوا۟ ٱلصَّٰلِحَٰتِ جَنَّٰتٍ تَجْرِى مِن تَحْتِهَا ٱلْأَنْهَٰرُ خَٰلِدِينَ فِيهَا بِإِذْنِ رَبِّهِمْ ۖ تَحِيَّتُهُمْ فِيهَا سَلَٰمٌ ﴿٢٣﴾ ﴾ [إبراهيم: ٢٣].

"၎င်းပြင်(အီမာန်)သက်ဝင်ယုံကြည်ခဲ့သည့်ပြင်ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ခဲ့ကြကုန်သော သူတို့ကား ဥယျာဉ်များသို့ ဝင်ရောက်စေခြင်းကိုခံကြရလတ္တံ့။ ထိုဥယျာဉ်များ၏ အောက်တွင် စမ်းရေချောင်းများသည် စီးတွေလျက်ရှိကြကုန်အံ့၊ ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်နှင့် ထိုဥယျာဉ်များတွင် ထာဝစဉ်နေထိုင်စံမြန်းသူများ ဖြစ်ကြပေအံ့။ ထိုဥယျာဉ်များတွင် ၎င်းတို့၏ မေတ္တာပို့သန္ထတ်ခွန်ဆက်သမှုကား **"စလာမ်"** (ငြိမ်းချမ်းသာယာခြင်း)ဟူ၍ပင် ဖြစ်ချေသတည်း။"

စူရဟ်ယူနွတ်စ် အာယသ်(၁၀)တွင်...

﴿ دَعْوَىٰهُمْ فِيهَا سُبْحَٰنَكَ ٱللَّهُمَّ وَتَحِيَّتُهُمْ فِيهَا سَلَٰمٌ ۚ وَءَاخِرُ دَعْوَىٰهُمْ أَنِ ٱلْحَمْدُ لِلَّهِ رَبِّ ٱلْعَٰلَمِينَ ﴿١٠﴾ ﴾ [يونس: ١٠].

"ယင်းသုခဘုံနန်းများတွင် ထိုသူတို့၏ စကားသည် "အို-အလ္လာ အရှင်မြတ်၊ အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော်မူပါ၏၊ ဟူ၍ လည်းကောင်း၊ ထိုသူတို့၏ နှုတ်ခွန်းဆက်ခြင်းသည် **"စလာမ်"**ဟူ၍ လည်းကောင်း၊ ထိုသူတို့၏ နောက်ဆုံး(နိဂုံးချုပ်) စကားသည် "ချီးမွမ်းထောမနာပြုခြင်းအပေါင်းတို့သည် တစ်လောကလုံးအား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင် သည်" ဟူ၍လည်းကောင်း ဖြစ်ပေသည်။

ဤလောကီဘဝမှာ မွတ်စ်လင်မ်တို့ အချင်းချင်းတွေ့ဆုံကြသော အခါ **"စလာမ်"** မေတ္တာပို့သကြသကဲ့သို့ ဂျန္နသ်ဘုံသားများသည်လည်း ဂျန္နသ်တွင် အချင်းချင်းတွေ့ဆုံကြသောအခါ "စလာမ်" မေတ္တာပို့သ ကြမှာဖြစ်ပါတယ်။

အခြားအာယသ်တော်များကိုမူ ကျမ်းလေးမည်ကိုစိုးရိမ်သော ကြောင့် ဤနေရာတွင် မဖော်ပြတော့ပါ။

# ဟဒီးဆ်တော်များနှင့် စလာမ်မေတ္တာတရား

## (၁) မွတ်စ်လင်မ်အချင်းချင်း၏ ဝတ္တရား

ဗိုခါရီကျမ်း ဟဒီးဆ်အမှတ် (၁၂၄၀)၊ မွတ်စ်လင်မ်ကျမ်း ဟဒီးဆ်အမှတ်(၂၁၆၂)လာ ဆင့်ပြန်ချက်တစ်ရပ်မှာ ကိုယ်တော် မြတ် ﷺ မိန့်တော်မူခဲ့ပါတယ်။ "မွတ်စ်လင်မ်အချင်းချင်း စောင့် ထိန်းရမယ့် ဝတ္တရား (၆) ပါးရှိနေပါတယ်။ အချင်းချင်းတွေ့ဆုံသောအခါ စလာမ် မေတ္တာပို့သခြင်း၊ စလာမ်ပြန်ခြင်း။" ဒီဝတ္တရားကို မေ့မထားဖို့ တိုက် တွန်းပါရစေ။

## (၂) ပြန့်ပွားစေပါ စလာမ်မေတ္တာ

ဘဇ္ဇားရ်ကျမ်းဟဒီးဆ်အမှတ်(၁၇၇၁)မှာ ကိုယ်တော် သခင် ﷺ က" အသင်တို့စလာမ်ပို့သခြင်းကို ပတ်ဝန်းကျင်မှာပြန့်ပွားအောင် ပြုကြ၊ တစ်ဦးတစ်ယောက်ဟာ ဖြတ်သွားနေရင်း မွတ်စ်လင်မ်အုပ်စု ကို စလာမ်မေတ္တာပို့သလိုက်လို့ ထိုသူများက စလာမ်ပြန်လိုက်မယ်ဆို ရင် စလာမ်ပို့သသူဟာ စလာမ်သတိပေး လိုက်တဲ့အတွက် ကြီးကျယ် ထွတ်မြတ်လှတဲ့ အကျိုးထူးကို ဆွတ်ခူးရရှိလိမ့်မယ်။ စလာမ်မပြန် ကြရင်လည်း သူတို့ထက် မြင့်မြတ်တဲ့(ဖရစ်ရှ်သာ)များက စလာမ် ဆက်သသူကိုစလာမ်မေတ္တာပို့သကြပါလိမ့်မယ်။

စလာမ်မေတ္တာပို့သလိုက်သူဟာ စလာမ်ပြန်ခံရလည်း အမြတ်၊ စလာမ်ပြန်မခံရလည်း အားငယ်ဖို့ မလိုတော့ဘူး၊ ကိုယ်ပေးလိုက်

သူတွေက စလာမ်မပြန်လည်း မြင့်မြတ်တဲ့ ဖရစ်ရှ်သာကြီးတွေက သူ့စလာမ်ကို တုံ့ပြန်ကြလိမ့်မယ်။

## (၃) စလာမ်ပြန်ခြင်းဟာ လမ်းဝတ္တရား

စလာမ်ပေးခြင်း၊ စလာမ်ပြန်ခြင်းတို့ဟာ လမ်းစည်းကမ်းတွေ ထဲမှာ ပါဝင်ကြောင်း ဗိုခါရီကျမ်း ဟဒီးဆ်အမှတ် (၂၄၆၅)မှာ မိန့်ကြား ထားပါသေးတယ်။

## (၄) စိတ်ချမ်းသာဆေး

အိမ်မ်နေ့ဟိဗ္ဗာန်းကျမ်း၊ ဟဒီးဆ်အမှတ်(၄၉၁) လာ ဟဇရသ် ဘရားအ် ﵁ ရဲ့ ဆင့်ပြန်ချက်အရ ကိုယ်တော်မြတ် ﷺ အမိန့်ရှိ ထားတာက "အသင်တို့ စလာမ်မေတ္တာပို့သခြင်းကို ပြန့်ပွားအောင်ပြု ကြ။ စိတ်၏ချမ်းသားခြင်း ကိုယ်၏ကျန်းမာခြင်းကို ခံစားရလိမ့်မည်။" ဟူ၍ဖြစ်ပါတယ်။

ကျွန်တော်တို့အရမ်း လိုချင်ကြတဲ့ ဂျန္နသ်ကိုလည်း အရှင်မြတ်က စလာမ်မေတ္တာပို့သခြင်းမှာ ထည့်ပေးထားတယ်။

## (၅) ဂျန္နသ်သော့တံ မြတ်စလာမ်

မွတ်စ်လင်မ်ကျမ်း ဟဒီးဆ်အမှတ်(၅၄)အရ... အဗူဟိုရိုင်ရဟ် ﵁ က ကိုယ်တော်သခင် ﷺ ရဲ့ မိန့်ကြားချက်ကို ဆင့်ပြန်ထားပါ တယ်။ "ငါ့အသက်ကိုစိုးပိုင်တော်မူသော အရှင်မြတ်ရဲ့ကစမ်၊ အသင်

တို့ပြည့်ဝတဲ့ အီမာန်ရှင်မဖြစ်သေးသ၍ ဂျန္နသ်ဝင်ရမှာမဟုတ်ဘူး၊ အချင်းချင်းမချစ်ခင်သေးသ၍ ပြည့်ဝတဲ့ အီမာန်ရှင်လည်း မဖြစ်နိုင်ဘူး၊ အသင်တို့အချင်းချင်းကြား အချစ်များ တိုးပွားလာစေမယ့် အလုပ်တစ်ခုကို ပြသပေးရမလား၊ … **အချင်းချင်းကြားစလာမ်မေတ္တာများကို ပြန့်ပွားအောင် လုပ်လိုက် ပါ။**" ချစ်ခြင်းတွေ တိုးပွားလာလိမ့်မယ်။

စလာမ်မေတ္တာပို့သခြင်းဟာ ဆဝါးဗ်များစွာ တိုးပွားစေပါတယ်။

## (၆) ကောင်းမှုအပေါင်း ခညောင်းစေလို့လျှင်

အေမာမ်သွဗ်ရာနီက မိမိရဲ့ကျမ်းမှာ စဟလ် ﷺ ရဲ့ ဆင့်ပြန်ချက်ကို ဖော်ပြထားပါတယ်။ ကိုယ်တော်မြတ် (ﷺ) က "اَلسَّلَامُ عَلَيْكُمْ" ဟုဆက်သသူအတွက် ကောင်းမှု (၁၀) ခုရေးမှတ်ခြင်းခံ ရမည်။ اَلسَّلَامُ عَلَيْكُمْ وَرَحْمَةُ اللهِ ဟုဆက်သသူအတွက် ကောင်းမှု (၂၀)၊ السلام عليكم ورحمة الله وبركاته ဟု တိုးပြီး ဆက်သသူအတွက် ကောင်းမှု (၃၀) ရေးမှတ်ခြင်းခံရမည်" လို့အမိန့်ရှိထားတော်မူပါတယ်။

📖သရ်ဂီးဗ်ကျမ်း ၊ ဟဒီးဆ်အမှတ်(၂၇၁၁)

## (၇) ဂုဏ်ရှိန်တိုးပွား စလာမ်မေတ္တာတရား

အဗူဒရ်ဒါး ﷺ သခင်က ကိုယ်တော်မြတ် (ﷺ) ရဲ့ မိန့်ကြားချက်ကို ဆင့်ပြန်ထားပါတယ်၊ "အသင်တို့ စလာမ်မေတ္တာပို့သခြင်းကို ပြန့်ပွားအောင် ပြုလုပ်ကြပါ၊ အသင်တို့ရဲ့ ဂုဏ်ဒြပ်တွေ မြင့်မားလာပါလိမ့်မယ်။"

(သရ်ဂီးဗ်ကျမ်း ၊ အတွဲ(၃)၊စာ(၂၈၆)

အေမာမ်နဝဝီ ﷲ رحمه သခင်က ဆက်လက်ရေးသားခဲ့ပါတယ်။ "ဆိုလိုတာက မွတ်စ်လင်မ်တို့ရဲ့ ဂုဏ်သိက္ခာတွေဟာ စလာမ်ကြောင့် မြင့်တက်လာမှာဖြစ်ပါတယ်၊ ဘာကြောင့်လည်းဆိုတော့ စလာမ် များများပေးကြရင် အချင်းချင်း ချစ်လာမယ်၊ စည်းလုံးလာမယ်၊ အောင်စိတ်တွေ ကိန်းအောင်းလာပြီးတော့ စိတ်ဓါတ်ကျခြင်းများ ကင်းဝေးသွားမှာ ဖြစ်ပါတယ်။ အရှင်မြတ်ထံတော်ပါးမှာလည်း စလာမ်ကြောင့် မြင့်မားတဲ့ အဆင့်အတန်းတွေကို ပိုင်ဆိုင်ရမှာ ဖြစ်ပါတယ်။

## (၈) အကောင်းဆုံးသော လုပ်ရပ်

အဗ်ဒုလ္လာဟ် ဗင်န်အမ်ရ်ဗင်န်အားစွ် ﷺ သခင်က အကြောင်း အရာတစ်ခုကို ဆင့်ပြန်ထားပါတယ်၊ ဆွဟာဗီတစ်ဦးက ကိုယ်တော် မြတ် (ﷺ)ကို "အစ္စလာမ်သာသနာတော်တွင် အကောင်း ဆုံးသော လုပ်ရပ်မှာ မည်သည့်အလုပ်ပါနည်း" ဟု မေးမြန်း လျှောက်ထားခဲ့ပါ တယ်၊ ကိုယ်တော်မြတ် (ﷺ) က အစားအသောက် ကျွေးမွေးခြင်းနဲ့ အသင်သိသူဖြစ်စေ၊ မသိသူဖြစ်စေ အားလုံးသော မွတ်စ်လင်မ်များကို စလာမ်မေတ္တာပို့သခြင်းဖြစ်တယ" လို့မိန့်ကြားလိုက်ပါတယ်။

ဗိုခါရီကျမ်း ၊ ဟဒီးဆ်အမှတ်(၆၂၃၆)

## (၉) ဦးစွာ စလာမ် ပို့ဆက်ပါ

အဗူအိုမာမာဟ် ﵁ သခင်က ကိုယ်တော်မြတ် (ﷺ) ရဲ့ မိန့်ကြားချက်ကို ဆင့်ပြန်ခဲ့ပါတယ်။ "စလာမ်မေတ္တာဦးစွာ ဆက်သသူဟာ လူတို့အနက် အရှင်မြတ်နဲ့ အနီးဆုံးသူ၊ အရှင့်ရဟ်မသ်နဲ့ အထိုက်တန်ဆုံးသူဖြစ်ပါတယ်။"

📖 အဗူဒါဝူးဒ်ကျမ်း ၊ ဟဒီးဆ်အမှတ်(၅၁၉၇)

## (၁၀) ဘရ်ကသ်အဖြာဖြာ စလာမ်မှာ

အနတ်စ် ﵁ သခင်ကို ချစ်နဗီ (ﷺ)က အောက်ပါအတိုင်း မှာတမ်းခြွေခဲ့ပါတယ်။ "အို- ချစ်သားလေး.... သား အိမ်ဝင်တဲ့ အခါတိုင်း မိသားစုကို စလာမ်မေတ္တာပို့သပါ၊ စလာမ်ပေးလိုက်ခြင်းကြောင့် သားအတွက်လည်း မင်္ဂလာရှိသလို မိသားစုအပေါ်လည်း မင်္ဂလာအဖြာဖြာ ကျရောက်ပါလိမ့်မယ်။"

📖 ဘုခါရီကျမ်း၊ ဟဒီးဆ်အမှတ် (၇၃၉၆)

## (၁၁) ဂိုနာဟ်ချွတ်ဆေး

"ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူပါတယ်။ အကုသိုလ်များကို မလွဲဧကန်ချွတ်ပေးမည့်အကြောင်းခံများအနက် စလာမ် များများ ပေးခြင်းနဲ့ ကောင်းသောစကားများပါဝင်ပါတယ်။"

📖မဂျ်မအုဇ်ဇဝါအိဒ်ကျမ်း အတွဲ(၈)၊စာ(၃၂)

## (၁၂) ဂျန္နသ်လက်မှတ် ဝယ်ယူထား

အဗ်ဒွလ္လာဟ်ဗင်န်စလားမ် ﷺ သခင်က “ကျွန်တော် ကိုယ်တော်သခင် (ﷺ) ရဲ့ (မဒီနာရောက်ရှိချိန် ပထမဆုံး) မိန့်ကြားချက်ကို အခုလိုကြားခဲ့ပါတယ်။ “အို-လူသားအပေါင်းတို့ စလာမ်မေတ္တာပြန့်ပွားအောင်ပြုလုပ်ကြပါ။ အစားအစာကျွေးမွေးကြပါ၊ လူအများအိပ်နေစဉ် ညချမ်းမှာ သဟဂျ်ဂျုဒ်နမားဇ် ဝတ်ပြုကြပါ၊ ငြိမ်းချမ်းစွာနဲ့ ဂျန္နသ်ထဲ ဝင်ကြရပါလိမ့်မယ်။”

📖အိဗ်နေ့မာဂျာကျမ်း-ဟဒီးဆ်အမှတ်(၂၆၄၈)

ဤဟဒီးဆ်တော်မြတ်ကနေ အစ္စလာမ့်ပတ်ဝန်းကျင်ထူထောင်ရေးမှာ ပထမဆုံး ကိုယ်တော်သခင် ﷺ သင်ကြားပေးခဲ့တာက စလာမ်မေတ္တာပို့သခြင်းဖြစ်ကြောင်း ကောင်းစွာသိရှိရပါတယ်။

## (၁၃) စလာမ်ကပ်စေး မနည်းကြေး

**စလာမ်မေတ္တာပို့သခြင်းမှာ ကပ်စေးမနည်းစေရန် ကိုယ်တော်သခင် (ﷺ) က အောက်ပါအတိုင်း မိန့်ကြားထားပါတယ်။**

“ဒီအာတောင်းဆိုရာတွင် နုံချာသောသူဟာ လူတို့တွင် အနုံချာဆုံးသူဖြစ်ပြီး၊ လူတို့အနက် ကပ်စေးအနည်းဆုံးသောသူမှာ စလာမ်မေတ္တာပို့သရန် စေးနည်းတွန့်တိုနေသူဖြစ်ပါတယ်။”

📖မဂျ်မအုဇ်ဇဝါအိဒ်ကျမ်း၊အတွဲ(၁၀)၊စာ(၁၄၇)

## (၁၄) သိသူကိုသာ စလာမ်ပေးတာ ကေယာမသ်နိမိတ်ပါ

အဗ္ဗဒွလ္လာဗင်န် မတ်စ်အူးဒ် ﷺ သခင်ဟာ ကိုယ်တော်မြတ် ﷺ ရဲ့မိန့်ကြားချက်ကို ဆင့်ပြန်တော်မူပါတယ်။ "ကေယာမသ်ရဲ့ နိမိတ်လက္ခဏာတွေအနက် တစ်ခုကတော့ လူသားဟာ ဗလီအနီးက ဖြတ်သွားပြီး ဗလီမှာနမားဇ်မဖတ်ဘဲနေမယ်၊ ပြီးတော့ သိသူတွေကို သာရွေးပြီး စလာမ်ပေးလိမ့်မယ်။"

📖သွဗ်ရာနီကျမ်း၊ ဟဒီးဆ်အမှတ်(၉၄၈၉)

သီးသန့်လူတွေကိုပဲ စလာမ်ရွေးပေးတာနဲ့ပတ်သက်ပြီး ကိုယ်တော်မြတ် (ﷺ) က မနုစ်မြို့ကြောင်း အိဗ်နေ့မတ်စ်အူးဒ် ﷺ ရဲ့ ဆင့်ပြန်ချက်ကို အေမာမ်ဗိုခါရီ ﷲ رحمه သခင်ကြီးက မိမိရဲ့ အလ်အဒ ဗုလ်မုဖ်ရတ်ဒ်ကျမ်း၊ ဟဒီးဆ်အမှတ် (၉၈၅) မှာ ဖော်ပြထားပါသေးတယ်။ "သိသူဖြစ်စေ၊ မသိသူဖြစ်စေ မွတ်စ်လင်မ်တိုင်းကို စလာမ် မေတ္တာ ပို့သခြင်းဟာ စွန္နသ်တော်ဖြစ်ပါတယ်။"

## (၁၅) ကိုယ်တော်နဲ့အနီးဆုံး

"စလာမ်ကိုဦးစွာ ဆက်သသူသည် ကေယာမသ်နေ့တွင် ငါ ကိုယ်တော်နှင့်အနီးဆုံးဖြစ်နေမည်။" ဟူသော ကိုယ်တော် သခင် ﷺ ရဲ့ မိန့်ကြားချက်ကို အဗူအိုမာမား ﷺ သခင်က ဆင့်ပြန်ခဲ့ပါတယ်။

📖သိရ်မေ့ဇီကျမ်း၊ ဟဒီးဆ်အမှတ်(၂၆၉၄)

ဤဟဒီးဆ်တော်များဖြင့်သာ စလာမ်ဆိုင်ရာ ဟဒီးဆ်တော် များတင်ပြခြင်းကို အဆုံးသတ်လိုက်ပါသည်။

# ကိုယ်က ဦးစွာစလာမ်ပေးပါ

ဆွဟာဗာ ﷺ တို့ဟာ စလာမ်ပေးခြင်းစွန္နသ်မှာ မည်သူ့ကိုမှ ဦးစားပေးလေ့မရှိပါ။ ရှေ့လူထက်အရင်ဦးအောင် စလာမ်ပေးလေ့ရှိကြပါတယ်၊ သမိုင်းစာမျက်နှာမှ နမူနာအချို့ကိုလေ့လာကြည့်ကြပါစို့.....

❁ ကိုယ်တော်မြတ် ﷺ ဟာ တွေ့ဆုံသူတိုင်းကို အမြဲဦးစွာစလာမ်ပေးလေ့ရှိပါတယ်၊ ဆွဟာဗာ ﷺ ကြီးတွေက ကိုယ်တော်သခင် ﷺ ကို ဦးစွာစလာမ်ပေးဖို့ကြိုးစားလေတိုင်း ကိုယ်တော် ﷺ ကသာ ဦးစွာစလာမ်ပေးလေ့ရှိသောကြောင့် မအောင်မြင်ခဲ့ကြပါ။

❁ အိဗ်နေ့မတ်စ်အူးဒ် ﷺ သခင်ကြီးက ကိုယ်တော်မြတ် ﷺ ရဲ့မိန့်ကြားချက်ကို ဆင့်ပြန်ခဲ့ပါတယ်။ "ဦးစွာစလာမ်မေတ္တာ ပို့သသူဟာ မာနကင်းစင်သူဖြစ်ပါတယ်။"

📖 ရှို့အဗုလ်အီမာန်ကျမ်း၊ ဟဒီးဆ်အမှတ်(၈၇၈၆)

❁ အဂရ် ﷺ သခင်က ပြောပြပါတယ်၊ တစ်ရက်ကျွန်တော် အဗူဗက်ရ် ﷺ သခင်နဲ့အတူ အန်ဆွာရီတစ်ပါးဆီ သွားခဲ့ပါတယ်၊ အဗူဗက်ရ် ﷺ သခင်ဟာ အဝေးမှတစ်ဦးတစ်ယောက်ကိုတွေ့မြင်ရတိုင်း ဦးစွာလှမ်း စလာမ်ပေးနေသည်ကိုတွေ့ပြီး ကျွန်ုပ်က ဤသို့ပြုမူရခြင်းနဲ့ ပတ်သက်ပြီး မေးမြန်းကြည့်ရာ သခင်ကြီးက "ငါတို့ဟာ တစ်ဦးတစ်ယောက်ကို အဝေးကနေ မြင်ရလေတိုင်း သူစလာမ်မပေးမီ ကိုယ်ကဦးစွာ စလာမ်ပေးရတာကို ကြိုက်နှစ် သက်တယ်" လို့ မိန့်ကြားခဲ့ပါတယ်။

📖သွဖ်ရာနီ ကဗီးရ်ကျမ်း၊ ဟဒီးဆ်အမှတ် တွဲ(၁)၊ စာ-(၃၀၀)

❁ အနတ်စ် ﷺ သခင်ဆင့်ပြန်ပါတယ်။ ကျွန်ုပ်တို့ဟာ ကိုယ်တော်သခင် (ﷺ) နဲ့အတူရှိစဉ်ကတည်းကအချင်းချင်းတွေ့ဆုံတိုင်း စလာမ်မေတ္တာပို့သကြပါတယ်၊ သစ်ပင် (နံရံ) တစ်ခုခုခြားသွားပြီး ပြန်လည်တွေ့ဆုံလာလျှင်လည်း ထပ်မံစလာမ်မေတ္တာ ပို့သကြပါတယ်။”

📖အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ်(၅၂၀၀)

❁ သို့ဖိုင်းလ်ဗင်န်အိုဗိုင်ယ် ﷺ သခင်ဟာ အိဗ်နေ့အုမရ် ﷺ သခင်နဲ့အတူ မနက်မိုးလင်းတိုင်း ဈေးသွားလေ့ရှိပါတယ်၊ အိဗ်နေ့အုမရ် ﷺ သခင်ကြီးဟာ ဈေးမှာတွေ့သမျှသော ဈေး သည်၊ ဈေးဝယ်၊ အညတရ၊ တောင်းရမ်းသူ စသည့်သူများ အားလုံးကို စလာမ်မေတ္တာပို့သနေပါတယ်၊ ကျွန်ုပ်က သခင်ကြီး ဘာကြောင့်ဈေးလာတာလဲ၊ သခင်ကြီးဟာ ဈေးလည်းမဝယ်၊ ဈေးစကားလည်းမပြော၊ ပစ္စည်းတွေလည်း ကြည့်ရှုခြင်းမရှိ ထိုအခါ သခင်ကြီးက ငါဈေးလာတယ်ဆိုတာ စလာမ်မေတ္တာရဲ့ကွန်ယက် တွေဖြန့်ကျက်ချင်လို့ပါ၊ တွေ့သမျှသူကို စလာမ်ပေးချင်လို့လာခဲ့တာပါ” လို့ဖြေကြားလိုက်ပါတယ်။

❁ အုမရ် ﷺ သခင်အမိန့်ရှိတော်မူပါတယ်။ “(၃) ခုသောအရာကို လုပ်ဆောင်ခြင်းဖြင့် မွတ်စ်လင်မ်အချင်းချင်းကြား သံယောဇဉ်နှောင်ကြိုးများခိုင်မာလာမယ်၊ စေတနာအကြင်နာများ တိုးပွားလာမယ်။

ပထမအချက်ကတော့ အချင်းချင်းတွေ့ဆုံတဲ့အခါ ဦးစွာစလာမ် ပေးခြင်းဖြစ်ပါတယ်၊

ဒုတိယအချက်ကတော့ မိမိနောင်တော်ကို သူနှစ်သက်တဲ့ အမည်နဲ့ ခေါ်ဆိုခြင်းဖြစ်ပါတယ်။

တတိယအချက်ကတော့ ထိုင်ဝိုင်းမှာ မိမိ မွတ်စ်လင်မ် နောင် တော်တစ်ယောက်ရောက်ရှိလာတဲ့ အခါဂုဏ်ပေးလေးစားစွာနဲ့ နေရာ ထိုင်ခင်းပေးကမ်းခြင်းတို့ဖြစ်ပါတယ်။

📖 ရှရ်ဟွတ်စွန္နဟ်ကျမ်း၊ အတွဲ(၁၂)၊ စာ(၂၆၃)

## စလာမ်နှင့်စပ်လျဉ်းသည့် တရားတော်လာ အမိန့်များ

ဤချစ်စရာကောင်းလွန်းလှသော စလာမ်မေတ္တာပို့သခြင်းမှာ လည်းလိုက်နာသင့်တဲ့ အမိန့်ပညတ်ချက်တွေရှိနေပါတယ်၊ အမိန့် ပညတ်ချက်အချို့ကို အကျဉ်းရုံးတင်ပြလိုက်ပါတယ်။

## စလာမ်ပေးခြင်းဆိုင်ရာ အမိန့်ပညတ်ချက်များ

❁ စလာမ်ပေးခြင်းဟာ **စွန္နသ်ဖြစ်ပြီး စလာမ်ပြန်ခြင်းက တော့ ဝါဂျစ်ဗ်တာဝန်ဖြစ်ပါတယ်။**

📖အလ်အရ်ှဘားဟု ဝန္နဇွာအိရ်ကျမ်း၊အတွဲ(၁)၊စာ(၁၄၆)

❁ **စလာမ်ပေးသူဟာ “အတ်စ္စလာမုအလိုင်းကွန်မ်း” (သို့) “အတ်စ္စလာမုအလိုင်းကွန်မ်း ဝရဟ်မသွလ္လားဟိ ဝဘရကားသုဟူ” စသဖြင့် ပီပီသသ ပေးရမှာဖြစ်ပြီး စလာမ်ပြန်သူကလည်း “ဝအလိုင်း**

**ကုမွတ်စ်စွလာမ်” (သို့) “ဝအလိုင်းကုမွတ်စ်စွလာမ် ဝရဟ်မသုလ္လားဟိ ဝဘရကားသုဟူ” စသဖြင့် ပြန်ဆိုပေးရပါမယ်။**

📖 သိရ်မေ့ဇီကျမ်း၊ဟဒီးဆ်အမှတ်(၂၇၂၁)

📖 ဟင်န်ဒီယာကျမ်း၊ အတွဲ(၅)၊စာ(၃၂၅)

**ယနေ့ မွတ်စ်လင်မ်အများစု ပေးနေသလို “စလားမို့အလိုင် ကွန်းမ်” လို့ပေးတာဟာ မှားယွင်းနေပါတယ်။ “အတ်စွလားမုအလိုင်း ကွန်းမ်” ဆိုပြီး ပီပီသသပေးသင့်ပါတယ်။ ပီပီသသမပေးတဲ့ စလာမ် မျိုးကို အဖြေမပေးလျှင်လည်း ဂိုနာမထိုက်ဟု ဖေကဟ်ပညာရှင်များ က မှတ်ချက်ပြုထားပါတယ်။**

📖ရဒ်ဒွလ် မုဟ်သားရ်ကျမ်း၊ အတွဲ(၉)၊စာ(၅၉၆)

❋ စလာမ်ကို တဖက်သူ ကြားစေရန် ချိုသာသောအသံဖြင့် ဆက်သရမည်။ မိမိစလာမ်ကြောင့် အိပ်ပျော်နေသူ၊ နမားဇ်ဝတ်ပြုသူ များလည်း အနှောက်အယှက်မဖြစ်စေရ။

မိက်ဒါးဒ် (رضي الله عنه) သခင်ရဲ့ဆင့်ပြန်ချက်အရ ကိုယ်တော်သခင် (ﷺ) ရဲ့စွန္နသ်တော်ဟာလည်း ဒီလိုပဲရှိကြောင်း အေမာမ် မုတ်စ်လင်မ် က မိမိကျမ်းဟဒီးဆ်အမှတ် (၂၀၅၅) မှာ ဖော်ပြထားပါတယ်။

❋ စလာမ်ဆက်သသူဟာ မိမိဆက်သနေသူကြားစေမည့် အသံမျိုးနဲ့ စလာမ်ပေးဖို့လိုအပ်ပါတယ်။

📖အွမ်ဒသွလ်ကာရီကျမ်း၊အတွဲ(၁၅)၊စာ(၃၄၆)

ဟဇရသ် ထာနဝီ သခင်ကြီးမိန့်ကြားပါတယ်။ “စလာမ်ပေး ချိန် အသံနေအသံထားကို ဂရုပြုခြင်းဟာလည်း အလွန်အရေးပါလှ

တဲ့ စလာမ်ရဲ့ကျင့်ဝတ်တစ်ခုဖြစ်ပါတယ်။ ရှေ့လူရဲ့အသက်အရွယ်၊ အဆင့်အတန်း၊ ဂုဏ်ဒြပ်စတဲ့ အချက်တွေကို ထောက်ရှုပြီး စလာမ်ပေးသင့်ပါတယ်။ အချို့ရဲ့စလာမ်တစ်ကြိမ်ပေးလိုက်ခြင်းဟာ ရှေ့လူရဲ့ နှလုံးသားထဲမှာ အချစ်မျိုးစေ့ချလိုက်သကဲ့သို့ အမြဲချစ်မြတ်နိုးသွားတတ်ပါတယ်။”

📖 အစ္စလာမီး သဟ်ဗီးဗ်ကျမ်း၊ စာ(၅၈)

❁ အစီးအနင်းပေါ်ရှိနေသူများဟာ လမ်းလျှောက်နေသူကို၊ လမ်းလျှောက်နေသူက ထိုင်နေသူကို၊ ငယ်သူက ကြီးသူကို၊ လူနည်းစုက လူများစုကို စလာမ်နှုတ်ခွန်းဆက်ရပါမယ်။

📖 ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ်(၆၂၃၂)

ဤနည်းနဲ့ စလာမ်ဆက်သခြင်းဟာ ချစ်နဗီ (ﷺ) ရဲ့ စွန္နသ် ဖြစ်ပါတယ်။

❁ နေရာခြားပြီး ပြန်တွေ့တိုင်း ပြန်လည်စလာမ်ပေးရပါမယ်။

📖 အဗူဒါဝူးဒ်ကျမ်း၊ဟဒီးဆ်အမှတ်(၅၂၀၀)

❁ အိမ်ဝင်၊အိမ်ထွက်တိုင်း မိသားစုကို စလာမ်ပေးပါ။

❁ လက်ဟန်ခြေဟန် (သို့) ဦးခေါင်းတို့နဲ့ပဲ စလာမ်ပေးခြင်း၊ စလာမ်ပြန်ခြင်းတို့ဟာ စွန္နသ်တော်နဲ့ ဆန့်ကျင်ပါတယ်၊ အဝေးမှာရှိနေသူကို စလာမ်ပေးလိုတယ်ဆိုရင်တော့ နှုတ်နဲ့စလာမ်ရဲ့ စကားလုံးတွေကို ပြောပြီး လက်ဟန်ခြေဟန်နဲ့ပါ ပူးတွဲပေးလိုက်မယ်ဆို ပိုမိုကောင်းမွန်ပါတယ်။

❁ အဝေးမှ စလာမ်ပေးစဉ် လက်မြှောက်မည်ဆိုပါကလည်း မြှောက်နိုင်ပါတယ်။ နှုတ်မှလည်း စလာမ်ကိုအသံဖြင့် ပေးရပါမယ်။

📖 မိရ်ကားသ်ကျမ်း အတွဲ(၄) ၊ စာ (၅၂၂)

အမ်ရ် ﷺ သခင်က ကိုယ်တော်မြတ် ﷺ ရဲ့ မိန့်ကြားချက်ကို တဆင့်ပြောပြတော်မူပါတယ်။ “ငါတို့လမ်းစဉ်အပြင်တခြားလမ်းစဉ်ကို လိုက်တုသူများဟာ ငါ့အွမ္မသ်ထဲမှမဟုတ်။ ဒါ့ကြောင့်အသင်တို့ဟာ စလာမ်မေတ္တာပို့သရာမှာ ယဟူဒီ၊ နဆွ်ရာနီတို့ရဲ့ ဖက်ရှင်မျိုးကို မတုကြလေနဲ့၊ ယဟူဒီတွေဟာ လက်ချောင်းလေးတွေနဲ့ နှုတ်ခွန်းဆက်လေ့ရှိကြပြီး၊ နဆွ်ရာနီများကတော့ လက်ဟန်ခြေဟန်နဲ့ဘဲ နှုတ်ခွန်းဆက်ကြ တယ်။

📖(သိရ်မဇီကျမ်း၊ ဟဒီးဆ်အမှတ် – ၂၆၉၅))

❁ ထိုင်းဝိုင်း၊ ဆွေးနွေးပွဲစသည်တို့ရဲ့ အစမှာ၊ အဆုံးမှာလည်း စလာမ်မေတ္တာပို့သခြင်းဟာ စွန္နသ်ဖြစ်ပါတယ်။ “အသင်တို့ ထိုင်ဝိုင်း တစ်ခုကို ရောက်ရှိလေတိုင်း စလာမ်ပေးကြပါ၊ ပြန်လည် ထလိုလျှင်လည်း စလာမ်ပေးကြပါ။” ထိုင်ချိန်၊ ထချိန် နှစ်ချိန်စလုံးမှာ စလာမ်ပေးရန် ပိုမိုထိုက်သက်သည်သာ။”

📖အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ်(၅၂၀၈)

ကြိုတင်ပြီးထိုင်နေသည့် စာသင်ခန်းရှိကျောင်းသားများကို ဆရာမှ၊ တရားနာရန်စောင့်မျှော်နေသည့် ပရိသတ်များကို တရားဟောဆရာမှ စလာမ်ဦးစွာဆက်သပေးရပါမည်။

📖သို့ဗီကျမ်း(အောက်ခြေရှင်းလင်းချက်)၊အတွဲ(၉)၊စာ(၈)

အစ္စလာမ့်ခလီဖ္ဖာကြီး အုမရ်ဗင်န်အဗ်ဒုလ်အဇီးဇ် رحمه الله သခင်က လက်အောက်ငယ်သားများကို မိမိကြွလာစဉ် စလာမ်မပေးရန်၊ အရှိအသေပေးသည့် သဘောဖြင့် မတ်တပ်မရပ်ရန် ကြိုတင်မိန့်ကြားထားသည်။

ရှရ်ဟွတ်စ္စုန္နဟ်ကျမ်း၊ အတွဲ(၁၂)၊ စာ(၂၆၂)

(အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ်-၅၂၀၈)

❁ **ကလေးသူငယ်များကိုလည်း** စလာမ်ပေးဖို့လိုအပ်ပါတယ်။ ဗိုခါရီကျမ်း၊ ဟဒီဆ်းအမှတ် (၆၂၄၇) လာ ဆင့်ပြန်ချက်တစ်ရပ်အရ ကိုယ်တော်သခင် (ﷺ) ဟာ ဆော့ကစားနေသော ကလေး ငယ်များအနီးမှ ဖြတ်လျှောက်ရင်း ၎င်းတို့ကို စလာမ်ပေးခဲ့ကြောင်း သိရှိရပါတယ်။ ဤဟဒီးဆ်တော်မြတ်ကနေ ကိုယ်တော်သခင် (ﷺ) ရဲ့ ရိုကျိုးမှု၊ ကြင်နာမှု၊ မျိုးဆက်သစ်များကိုအစ္စလာမ့် အသိပညာများ သင်ပေးပြီး ပျိုးထောင်မှု စတဲ့အကျိုးကျေးဇူးတွေကို သိရှိလိုက်ရပါတယ်။

❁ **ပြုံးရွှင်ချိုသာတဲ့** မျက်နှာနဲ့ စလာမ်ပေးခြင်းဟာလည်း စလာမ်ရဲ့ ပူးတွဲစုန္နသ်တော်တစ်ရပ်ဖြစ်ပါတယ်။ အခြေအနေ ပေးမယ်ဆိုရင်တော့ လက်ဆွဲနှုတ်ဆက်ခြင်းကိုပါ တစ်ပါတည်း ဆောင်ရွက်လိုက်ရပါမယ်။ ဒီလိုကျင့်မူဆောင်ရွက်ခြင်းတွေဟာ အကုသိုလ်တွေကို ပ လပ်ပေးစေမယ့်အကြောင်း ဟဒီးဆ်တော်ပေါင်းများစွာမှာ လာရှိထားပါတယ်။

အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ်-(၅၂၁၂)

❀ ဟဒီးဆ်တော်မှာ အတိအလင်းလာရှိထားတဲ့ စလာမ်ရဲ့ စာသားတွေနဲ့ပဲ နှုတ်ခွန်းဆက်သရပါမယ်၊ လိုတိုးပိုလျှော့ မပြုသင့်ပါ။

السلام عليكم و رحمة الله و بركاته စလာမ်ဟာ "ဝဘရကားသုဟူ" မှာ ဆုံးပါတယ်လို့ ကိုယ်တော်မြတ် (ﷺ) က အမိန့်ရှိထားကြောင်း အိမ်ဗ်နေ့အဗ္ဗါစ်း رضي الله عنهما သခင်ရဲ့ ဆင့်ပြန်ချက်တစ်ရပ်ကနေ သိရှိရပါတယ်။

📖 ရှရ်ဟွတ်စွန္နဟ်ကျမ်း၊ အတွဲ (၁၂)၊စာ (၂၅၇)
📖 ဟင်န်ဒီယဟ်ကျမ်း၊အတွဲ(၅)၊စာ(၃၂၅)

မှတ်သားရန်။ ။စလာမ်နဲ့ပတ်သက်ပြီး ထပ်မံလေ့လာကြည့်တဲ့အခါ
*သရှဟ်ဟွဒ်မှာ ကျွန်တော်တို့ဖတ်တဲ့ စလာမ်ဟာ "ဝဘရကားသုဟူ" မှာပဲ ဆုံးပါတယ်။
*နမားဇ်အဆုံးသတ်ချိန်ဆိုတဲ့ စလာမ်မှာတော့ "ဝရဟ်မသွလ္လားဟ်" မှာ ဆုံးပါတယ်။

❀ လူသူမရှိတဲ့ အိမ်ထဲကို ဝင်တဲ့အခါမှာ السلام علينا و على عباد الله الصالحين "ကျွန်ုပ်တို့နှင့် အရှင်မြတ်ရဲ့ သူတော်စင်ကျေးကျွန်များ အပေါ် ငြိမ်းချမ်းသာယာမှုအပေါင်း ခညောင်းပါစေသား" လို့ စလာမ် မေတ္တာ ပို့သလိုက်ပါ။

❀ ဗလီဝတ်ကျောင်းတော်ထဲကို ဝင်ရောက်မယ်ဆိုရင်တော့ السلام على رسول الله ဆိုပြီး နှုတ်ခွန်းဆက်သရမယ့်အကြောင်း အေမာမ် မုဂျာဟိဒ်ရဲ့ အဆိုကို အေမာမ်အိဗ်နေ့ကဆီးရ်သခင်က မိမိရဲ့

သဖ်စီးရ်ကျမ်း အတွဲ(၃)၊ စာ(၃၀၆)မှာ ဖော်ပြထားပါတယ်။ ဗလီထဲကထွက်မယ်ဆိုရင်လည်း السلام على رسول الله လို့ဆိုရမည့် အကြောင်း အဗူဒါဝူးဒ်ကျမ်း ဟဒီးဆ်အမှတ် (၄၆၅) မှာဖော်ပြထားပါ တယ်။

❋ ကဗရ်စတန်ထဲကို ဝင်ရောက်ချိန်လည်း စလာမ်မေတ္တာ ပို့သဖို့ လမ်းညွှန်ချက်တွေ ဟဒီးဆ်တော်ပေါင်း မြောက်မြားစွာမှာ တွေ့ရှိရပါတယ်။ ဒါဟာ စလာမ်ရဲ့ကျယ်ပြန့်နက်နဲမှုကို ဖော်ဆောင် ခြင်းဖြစ်ပြီး၊ အစ္စလာမ်သာသနာတော်ဟာ သေသူများ အတွက်ပါ မကျန် မေတ္တာပို့သကြောင်း ထင်ဟပ်စေပါတယ်။

ကဗရ်စတန်ထဲကို ဝင်ရောက်တဲ့အခါ စလာမ်မေတ္တာပို့သပုံက

اَلسَّلَامُ عَلَيْكُمْ أَهْلَ الدِّيَارِ مِنَ الْمُؤْمِنِيْنَ وَالْمُسْلِمِيْنَ وَإِنَّا إِنْ شَاءَ اللّٰهُ لَلَاحِقُوْنَ أَسْأَلُ اللّٰهَ لَنَا وَلَكُمْ الْعَافِيَةَ

"တစ်ခဏ စံအိမ်မှာ နေထိုင်နေကြတဲ့ မွတ်စ်လင်မ်၊ မုအ်မင်န် အပေါင်းတို့ အသင်တို့အားလုံးအပေါ် ငြိမ်းချမ်းသာယာမှုအပေါင်း ခညောင်းပါစေသား၊ အရှင်မြတ်အလိုတော်နဲ့ ကျွနုပ်တို့သည်လည်း အသင်တို့နှင့် လာရောက်တွေ့ဆုံကြမည့်သူများသာဖြစ်ပါတယ်။ ကျွနုပ် အသင်တို့နဲ့တကွ မိမိတို့အားလုံးအတွက် သက်သောင့် သက် သာဖြစ်မှုကို အရှင်မြတ်ထံမှ တောင်းခံအပ်ပါတယ်။

📖မွတ်စ်လင်မ်ကျမ်း၊ ဟဒီးဆ်အမှတ် (၉၇၅)

သိရ်မေဇီကျမ်း၊ ဟဒီးဆ်အမှတ်(၁၀၅၉)ရဲ့ မှာတော့ ...

اَلسَّلَامُ عَلَيْكُمْ يَا أَهْلَ الْقُبُوْرِ يَغْفِرُ اللهُ لَنَا وَلَكُمْ وَأَنْتُمْ سَلَفُنَا وَنَحْنُ بِالْأَثَرِ

"အို ကဗရ်သူ/ကဗရ်သားအပေါင်းတို့၊ အသင်တို့အပေါ်ငြိမ်းချမ်း သာယာမှုအပေါင်း ခညောင်းပါစေ။ အရှင်မြတ်ကျွန်ုပ်တို့အပြစ်များ၊ အသင်တို့အပြစ်များကို ခွင့်လွှတ်ချမ်းသာပေးသနားတော်မူပါစေ၊ အသင်တို့ကတော့ ကျွန်ုပ်တို့အလျင်စောလျင်စွာသွားခဲ့ကြပြီ၊ ကျွန်ုပ်တို့လည်း အသင်တို့နောက် လိုက်ပါကြမည့်သူများသာ။"

❁ နဗီတမန်တော်များကို عليه السلام ဆိုပြီး မေတ္တာပို့သရပါမယ်။ ဒီလိုမေတ္တာပို့သဖို့အတွက် မြင့်မြတ်တော်မူသော အရှင်မြတ်က ကျွန်ုပ်တို့ကို ကျမ်းမြတ်ကုရ်အာန်မှာ သင်ကြားပေးထားပါတယ်။

﴿ سَلَٰمٌ عَلَىٰ نُوحٍ فِي ٱلْعَٰلَمِينَ ۝٧٩ ﴾ [الصافات: ٧٩].

"ခပ်သိမ်းကုန်သော ကမ္ဘာသူ၊ ကမ္ဘာသားများတွင် နူးဟ်၏အပေါ်ဝယ် "စလာမ်" ချမ်းမြေ့သာယာမှုသည် ကျရောက်ပါစေ။"

﴿ سَلَٰمٌ عَلَىٰٓ إِبْرَٰهِيمَ ۝١٠٩ ﴾ [الصافات: ١٠٩].

"အိဗ်ရာဟီးမ်၏ အပေါ်ဝယ် "စလာမ်" ချမ်းမြေ့သာယာမှုသည် ကျရောက်ပါစေ။"

﴿ سَلَٰمٌ عَلَىٰ مُوسَىٰ وَهَٰرُونَ ۝١٢٠ ﴾ [الصافات: ١٢٠].

"(စလာမ်)ငြိမ်းချမ်းသာယာမှုသည် မူစာ၏ အပေါ်၌လည်းကောင်း၊ ဟာရူန်၏အပေါ်၌ လည်းကောင်း ကျရောက်ပါစေ။"

﴿ سَلَٰمٌ عَلَىٰٓ إِلْ يَاسِينَ ۝١٣٠ ﴾ [الصافات: ١٣٠]."

"စလာမ်" ငြိမ်းချမ်းသာယာမှုသည် "အိလ်ယာစီန်" ၏အပေါ် ဝယ် ကျရောက်ပါစေ။"

﴿وَسَلَٰمٌ عَلَى ٱلْمُرْسَلِينَ ﴿١٨١﴾﴾ [الصافات: ١٨١].

"ငင်းပြင်ချမ်းမြေ့သာယာမှုသည် "ရစူလ်" တမန်တော်တို့ အပေါ်ဝယ် ကျရောက်ပါစေသော်။"

﴿وَسَلَٰمٌ عَلَىٰ عِبَادِهِ ٱلَّذِينَ ٱصْطَفَىٰٓ ﴿٥٩﴾﴾ [النمل: ٥٩].

"ငင်းပြင်ငြိမ်းချမ်းသာယာမှုသည် ထိုအရှင်မြတ်ရွေးချယ် တော်မူခဲ့သော ကျွန်များအပေါ်၌ ကျရောက်ပါစေသား။"

❁ ကျွန်ုပ်တို့နဗီကြီးအပေါ် စလာမ်မေတ္တာပို့သနည်းကိုလည်း အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန်မှာ သင်ကြားပေးထားပါတယ်။

﴿إِنَّ ٱللَّهَ وَمَلَٰٓئِكَتَهُۥ يُصَلُّونَ عَلَى ٱلنَّبِيِّ ۚ يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ صَلُّوا۟ عَلَيْهِ وَسَلِّمُوا۟ تَسْلِيمًا ﴿٥٦﴾﴾ [الأحزاب: ٥٦].

"စေန်အမှန် အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထို အရှင်မြတ်၏ "မလာအိကဟ်" ကောင်းကင်တမန်များသည်လည်း ကောင်း၊ နဗီတမန်တော်မြတ်အပေါ်ဝယ် ကောင်းချီးမင်္ဂလာပို့သကြ ကုန်၏။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့ သည်လည်း ထိုနဗီတမန်တော်မြတ်အပေါ်ဝယ် ကောင်းချီးမင်္ဂလာ ပို့သခြင်းကိုလည်းကောင်း၊ လွန်စွာ "စလာမ်" မေတ္တာပို့သခြင်းကို လည်းကောင်း ပြုကြလေကုန်။"

❁ record လုပ်ထားတဲ့ စလာမ်ရဲ့အဖြေကို မပေးလျှင်လည်း ရပြီး၊ ရေဒီယို(သို့) အခြားသော live အသံလွှင့်သည့် စနစ်တစ်ခုခုဖြင့် စလာမ်သံကြားလိုက်ရပါက စလာမ်ပြန်ပေးရန်တာဝန်ရှိလာမည်။

📖 ဒွရ်ရေ့မွခ်သားရ်ကျမ်း၊ အတွဲ(၂)၊စာ(၅၈၃)၊
"စဂျ်ဒဟ်သေလာဝသ်အခန်း"

📖 ဖသာဝါ မဟ်မူဒီယဟ်ကျမ်း၊ အတွဲ(၂၈)၊စာ(၂၀၁)
"စလာမ်ဆိုင်ရာရှိသေသမှုများအခန်း"

❁ Voice SMS နဲ့တစ်ဦးတစ်ယောက်က စလာမ်ပေးလာရင်လည်း စလာမ်ပြန်ပေးရပါမယ်။

❁ အိမ်မှာတပ်ထားတဲ့ bellကဖြစ်ဖြစ်(သို့) ဖုန်းringtoneက နေလာတဲ့ "အတ်စ်လာမိုအလိုင်းကွန်မ်" သံဖြစ်ဖြစ် နှစ်ခုလုံးရဲ့ အဖြေပေးဖို့ မလိုအပ်ပါဘူး။

❁ Social media (facebook, Whatsapp, Youtube) စတဲ့ app တွေကနေလာတဲ့ ဘယန်၊ ကြေညာချက်တွေရဲ့ အစမှာ ပေးတဲ့ စလာမ်နဲ့ပတ်သက်ပြီး တစ်ဦးတစ်ယောက်က စလာမ်ကိုအဖြေပေးထားရင် အားလုံးဟာ တာဝန်ကျေသွားပါမယ်။

📖 အစ္စလာမ်းက နိဗ္ဗာမေ့စလာမ်၊ စာ(၁၉၈)

❁ စလာမ်ပေးစဉ်၊ ပြန်စဉ် ဦးခေါင်းကိုမညွှတ်ရပါဘူး။ အနတ်စ်ﷺ သခင်ထံမှ ဆင့်ပြန်ချက်လာရှိပါတယ်။ ပုဂ္ဂိုလ်တစ်ဦးက ကိုယ်တော်မြတ် ﷺ ထံမှာလျှောက်ထားပါတယ်။ ကျွန်ုပ်တို့အနက် တစ်ဦးဟာ မိမိမွတ်စ်လင်မ်ညီနောင်နဲ့တွေ့ဆုံတဲ့အခါ ဦးခေါင်းညွှတ်

ခွင့်ရှိပါသလား။ ထိုအခါကိုယ်တော်မြတ် ﷺ က "ဦးခေါင်းမညွှတ်ရပါ" ဟု အမိန့်ရှိလိုက်သည်။ ဆက်လက်၍ ထိုပုဂ္ဂိုလ်က မိမိညီနောင်နဲ့တွေ့ဆုံချိန် ဖက်ပြီး နမ်းခွင့်ရှိပါသလားဟု ဆက်လက်မေးလျှောက်ရာ ကိုယ်တော်သခင် ﷺ က "(ဤသို့ပြု မှုခြင်းဖြင့် နောက်ဆက်တွဲပြဿနာများပေါ်ပေါက်လာနိုင်သဖြင့်) ပြုလုပ်ခွင့်မရှိဟုပင် မိန့်ကြားလိုက်သည်။ ဆက်လက်ပြီး အထက်ပါမေးမြန်းသူက ကျွန်ုပ်တို့အချင်းချင်းတွေ့ဆုံစဉ် လက်ဆွဲနှုတ်ဆက်ခွင့်ရှိပါသလားဟု မေးမြန်းရာ ကိုယ်တော်သခင် ﷺ က လက်ဆွဲနှုတ်ဆက်ခွင့်တော့ ရှိပါသည်" ဟု ဖြေကြားလိုက်ပါတယ်။"

📖သိရ်မေဇီကျမ်း၊ ဟဒီးဆ်အမှတ်(၂၇၂၈)

❋ နံရံ၊ကန့်လန့်ကာနောက်ကွယ်မှ တစ်ဦးတစ်ယောက်က စလာမ်ပေးလိုက်ရင်တော့ စလာမ်ပြန်ပေးဖို့လိုအပ်ပါတယ်။

📖အလ်အဇ်ကားရ်ကျမ်း၊ စာ(၂၈၂)

❋ ကိုယ်မသန့်ဖြစ်နေသူဟာ စလာမ်ပေးခြင်း၊ ပြန်ခြင်း နှစ်မျိုးလုံးပြုလုပ်နိုင်ပါတယ်။

📖 ကိသားဗွလ် ဖသာဝါ ၊အတွဲ(၂)၊ စာ(၆၆)

❋ စိတ်ဆိုးနေတဲ့အခါလည်း (၃)ရက်ထက်ပိုပြီး စလာမ်မပေးဘဲ နေခွင့်မရှိပါဘူး။ အာအေရှာ ﵂ သခင်မကြီးက ကိုယ်တော်မြတ် ﷺ ရဲ့မိန့်ကြားချက်ကို အောက်ပါအတိုင်း ဆင့်ပြန်ထားပါတယ်။ "မွတ်စ်လင်မ်တစ်ဦးဟာ မိမိရဲ့နောင်တော်တစ်ဦးကို (၃) ရက်ထက်ပိုပြီး စလာမ်မပေးဘဲ နေထိုင်ခွင့်မရှိပါ။ တွေ့ဆုံလိုက်တဲ့အခါ စလာမ်

ပေးလိုက်ရမှာဖြစ်ပါတယ်။ (၃) ကြိမ်တိတိ စလာမ်ပေးပေမယ့် စလာမ်မပြန်ဘူးဆိုရင်တော့ စလာမ်မပြန်သူရဲ့အပြစ်ပါပဲ။

❁ သူစိမ်းအမျိုးသား၊ အမျိုးသမီးတို့အချင်းချင်း စလာမ်ပေးခြင်းနဲ့ပတ်သက်ပြီးတော့ အောက်ပါအချက်တွေကို နားလည်ဖို့လိုအပ်ပါတယ်။

(၁) စလာမ်ပေးခြင်းကြောင့် နောက်ဆက်တွဲ ပြဿနာမပေါ်ပေါက် စေရဘူး။

(၂) လုံးဝလက်ဆွဲ နှုတ်ဆက်ခြင်းမပြုရဘူး။

(၃) နွဲ့နှောင်းသောအသံ၊ ငြိ့ငင်ဖမ်းစားတဲ့ ဟန်ပန်များနဲ့ စလာမ်မပေးရဘူး။

📖အလ်ဘဟ်ရွတ် ရာအိက်ကျမ်း၊ အတွဲ(၈)၊စာ(၂၀၇)၊
"မက္ကရူးဟ်ဆိုင်ရာ ပညတ်ချက်များ အခန်း"

အထက်ပါအချက်များအနက် တစ်ခုခုနှင့်ငြိစွန်းနိုင်ပါက စလာမ်ကို နှုတ်မှမပြန်ဘဲ စိတ်ထဲမှပြန်လိုက်လျှင်လည်း အထမြောက်သွားမှာ ဖြစ်ပါတယ်။

📖 ဟင်န်ဒီယဟ်ကျမ်း၊အတွဲ(၅)၊စာ(၃၂၆)

ဖုန်း၊ စာ၊ massage၊ (chatting) စသည်တို့ဖြင့် အမျိုးသား၊ အမျိုးသမီးတို့ရဲ့ စလာမ်ပေးခြင်းဆိုင်ရာ အမိန့်ပညတ်ချက်များမှာလည်း အထက်ပါအတိုင်းဖြစ်ပါတယ်။

📖 အစ္စလာမ်းက နိဗ္ဗာန်မေ့စလာမ်၊ စာ(၁၈၃)

❁ ထင်ရှားစွာ ပြစ်မှုကျူးလွန်နေသူများကိုလည်း ပြစ်မှုမှ ရှောင်ကြဉ်လာစေရန် စလာမ်မပေးဘဲထားနိုင်သည်။

🕮မဟ်မူဒီယဟ်ကျမ်း၊အတွဲ(၁၉)၊စာ(၉၅)

မဟ်ရမ်(အမြဲနေကာမပိုင်သော အစ်မ၊ နှမ၊ အမေစသူတို့ ကို) မှ ခွင်းချက်မဲ့ စလာမ်ပေးနိုင်သည်။

❁ တစ်ဦးတစ်ယောက်ထံ စာရေးသားတဲ့အခါမျိုးမှာလည်း ဦးစွာ السلام عليكم လို့ရေးသားသင့်ပါတယ်။

🕮ဖသာဝါဒါရူလ်အိုလူးမ်-ဒေယိုဘန်ဒ်၊အမှတ်စဉ်(၇၈၇၅)

## စလာမ်မပေးရမည့်အခြေအနေများ

စလာမ်ပေးခြင်းမှာအလွန်ပင်ကောင်းသော စွန္နသ်တော်တစ်ရပ်ဖြစ်သော်လည်း ရှရီအသ်တရားတော်မြတ်က ဤစွန္နသ်ကို အကောင်အထည်ဖော်ရာတွင် အခြားသူ ဒုက္ခမဖြစ်စေမည့်ပုံစံကို ရွေးချယ်ခိုင်းထားပါတယ်။ မိမိစလာမ်ကြောင့် တပါးသူအခက်တွေ့သွားစေမယ့် အနေအထားများကို ရှောင်ရှားခိုင်းထားပါတယ်။

ဟာဇရသ် ထာနဝီ رحمه الله သခင်ကြီးက ဖေကဟ်ပညာရှင်များရဲ့အဆိုအမိန့်များကိုရှေ့ထားပြီး ဤကဏ္ဍအတွက် မူအချို့ချမှတ်ခဲ့ပါတယ်။

"တစ်ဦးတစ်ယောက်ဟာ အောက်ဖော်ပြပါအခြေအနေများအနက် အခြေအနေတစ်ခုခုမှာ နစ်မွန်းနေမယ်ဆိုရင် သူ့ကိုစလာမ်မပေးဘဲ နေသင့်ပါတယ်။"

❁ ဂိုနာအကုသိုလ်တစ်ခုခုမှာ နစ်မွန်းနေတဲ့အခါ ဤအခြေအနေမှာ စလာမ်ပေးခြင်းဟာ စလာမ်ကို သေးသိမ်အောင် ပြုရာရောက်ပါတယ်။

❁ အေဗာဒသ်တစ်ခုခုမှာ နစ်မွန်းနေတဲ့အခါ

❁ လူ့သဘာဝက တောင်းဆိုတဲ့အချက်များကို ဖြည့်ဆည်းနေတဲ့အခါ ...

ဥပမာ – ကျင်ကြီး၊ကျင်ငယ်စွန့်ခြင်း။

ဤအခြေအနေနှစ်ရပ်လုံးမှာ စလာမ်ပေးလိုက်ခြင်းဖြင့် တစ်ဖက်လူကို ဒုက္ခရောက်သွားစေပါတယ်။ အခက်တွေ့စရာဖြစ်သွားနိုင်ပါတယ်။

📖 အစ္စလာမီး သဟ်ဇီးဗ်၊ စာ(၆၄)

❁ နမားဇ်အချိန်ဗလီဝတ်ကျောင်းတော်တွေမှာ အသံကျယ်လောင်စွာနဲ့ စလာမ်မပေးသင့်ပါဘူး။ နမာဇီများကို အနှောင့်အယှက်ဖြစ်စေသောကြောင့်ဖြစ်ပါတယ်။

📖 ရဒ်ဒွလ်မုဟ်သားရ်ကျမ်း၊ အတွဲ(၉)၊စာ(၅၉၂)

❁ စလာမ်ဆိုသည်မှာ အလ္လာဟ်အရှင်မြတ်ရဲ့ သန့်ပြန့်စင်ကြယ်လှတဲ့ နာမတော်တစ်ပါးဖြစ်ပါတယ်။ ဒါကြောင့် မသန့်ပြန့်တဲ့နေရာတွေ၊ ကျင်ကြီးကျင်ငယ်စွန့်နေစဉ်တွေမှာ စလာမ်ပေးခြင်းဟာ ဟနဖီဖေကဟ် ပညာရှင်ကြီးတွေရဲ့ထံမှာ မက္ကရူးဟ်ဖြစ်ပါတယ်။ တစ်ဦးတစ်ယောက်က ဤအခြေအနေတွေမှာ စလာမ်ဆက်သလာရင်လည်း နှုတ်နဲ့အဖြေပေးဖို့ မလိုအပ်ပါဘူး။ စိတ်ထဲကပဲစလာမ်ကို ပြန်လိုက်ရင်ကို လုံလောက်ပါတယ်။

📖မွတ်စ်လင်မ်ကျမ်း ၊ ဟဒီးဆ်အမှတ်(၈၂၃)

📖 ဖသာဝါဟင်န်ဒီယဟ်ကျမ်း၊ အတွဲ(၅)၊စာ(၃၆၆)

## စလာမ်မပေးရမည့်သူများ

၁။ နမားဇ်ဖတ်နေသူ

📖(အွမ်ဒသွလ်ကာရီကျမ်း၊အတွဲ(၅)၊စာ(၆၂၄)

၂။ ဒိုအာတွင်မွေ့လျော်နေသူ

📖အလ်အဒ်ဗ်ကားရ်ကျမ်း၊ စာ(၂၈၇)

၃။ ဇိက်ရ်၊သတ်စ်ဗီးဟ်တွင် မွေ့လျော်နေသူ

📖ရဒ်ဒွလ်မုဟ်သားရ်ကျမ်း၊ အတွဲ(၁)၊စာ(၆၁၆)

📖မဟ်မူဒီယဟ်ကျမ်း၊ အတွဲ(၁၉)၊စာ(၇၄)

၄။ ကုရ်အာန်ကျမ်းမြတ်သီလာဝသ်လုပ်နေသူ

📖ဖသာဝါဟင်န်ဒီယဟ်ကျမ်း၊ အတွဲ(၅)၊စာ(၃၆၆)

၅။ ခွတ်သ်ဗာပေးနေသူ

📖 မိရ်ကားသ်ကျမ်း၊ အတွဲ(၉)၊ စာ(၅၈)

ထိုနည်းတူစွာ သာသနာ့ပညာရေးဆိုင်ရာ ဆွေးနွေးနေသော ကျောင်းသားများ၊ ဆရာများကိုလည်း (ဆွေးနွေးနေစဉ်) စလာမ် မပေးသင့်ပါ။

📖 ဟင်န်ဒီယဟ်ကျမ်း၊အတွဲ(၅)၊စာ(၃၅၂)

၆။ ထမင်းစားနေသူ (အကယ်၍ ထမင်းလုပ်ကို ပါးစပ်ထဲ ထည့်နေစဉ် ဆိုပါက မက္ကရူးဟ်ဖြစ်သည်၊ ထမင်းလုပ်ကို ဝါးပြီးချိန် (သို့) ပါးစပ်ထဲမထည့်ရသေးမီဆိုပါက ပြဿနာမရှိပါ။ စလာမ် ကြောင့် ထမင်းစားသူ ဒုက္ခမရောက်စေသော ပုံစံမျိုးဖြင့် စလာမ် ပေးသင့်ပါတယ်။ )

📖ရဒ်ဒွလ်မုဟ်သားရ်ကျမ်း၊ အတွဲ(၉)၊စာ(၅၉၅)

၇။ အဇာန်(သို့)အေကာမသ်ဆိုနေစဉ်

📖 ရဒ်ဒွလ်မုဟ်သားရ်ကျမ်း၊ အတွဲ(၂)၊စာ(၃၇၃)၊

📖ဟင်န်ဒီယဟ်ကျမ်း(အတွဲ၁)၊စာ(၅၅)

၈။ ကျင်ကြီး ကျင်ငယ်စွန့်နေသူ

📖 ရှာမီကျမ်း အတွဲ(၂)၊စာ(၃၇၅)

(နမားဇ်ပျက်စေသောအရာများအခန်း)

📖ရဒ်ဒွလ်မုဟ်သားရ်ကျမ်း အတွဲ(၁)၊ စာ (၄၁၅)

၉။ ဟဂျ်(သို့)အွမ်ရာပြုနေစဉ် သလ်ဗီယာဆိုနေသော ဟာဂျီကို စလာမ်ပေးခြင်းဟာ မက္ကရူးဟ်ဖြစ်ပါတယ်။

📖 အလ်အဇ်ကားရ်ကျမ်း၊စာ(၂၈၇)

၁၀။ အိပ်နေသူ၊ အိပ်ငိုက်နေသူတို့ကို စလာမ်မပေးသင့်ပါ။

📖မိရ်ကားသ်ကျမ်း၊အတွဲ(၉)၊စာ(၅၈)

၁၁။ ရှရီအသ်တရားတော်မြတ်အရ ဖုံးအုပ်ရန်သတ်မှတ်ထားသော အစိတ်အပိုင်းများကို ဖော်ထားသူအား စလာမ်ပေးရန်မလိုအပ်ပါ။

📖ရဒ်ဒွလ်မုဟ်သားရ်ကျမ်း၊အတွဲ(၁)၊ စာ(၄၅၆)

## ရပ်ဝေးမှ စလာမ်ဆိုခြင်း

ရှေ့မှာရှိနေသူတွေကို စလာမ်ပေးခြင်းဟာ စွန္နသ်၊ စလာမ်ပြန်ခြင်းဟာ ဝါဂျစ်ဗ်ဖြစ်သလို ရပ်ဝေးမှာရှိနေသူတွေရဲ့ စလာမ်ပေးခြင်း၊ ယူခြင်းတို့ရဲ့အမိန့်တွေလည်း ရှရီအသ်မှာရှိနေပါတယ်။

ဤသို့စလာမ်မေတ္တာပို့သခြင်းဟာ မွတ်စ်သဟာဗ်ဖြစ်ကြောင်း အေမာမ်နဝဝီသခင်ကြီးက မိန့်ဆိုထားပါတယ်။

📖 အလ်အဇ်ကာားရ်ကျမ်း၊ စာ(၂၈၃)

မြင့်မြတ်တော်မူသော အရှင်မြတ်က ချစ်နဗီ ﷺ ကို စလာမ်ပို့သခြင်း၊ ဟဇရသ်ခဒီဂျာ رضي الله عنها ကို စလာမ်ပို့သခြင်း၊ ဟဇရသ်အိဗ်ရာဟီးမ် عليه السلام က ကျွန်ုပ်တို့အွမ္မသ်ကို ၊ နဗီတမန်တော်မြတ် ﷺ က ဆွဟာဗာများကို၊ ဆွဟာဗာ رضي الله عنهم များကလည်း အချင်းချင်း စလာမ်ပို့သခြင်း စသည်တို့မှာ ကျွန်ုပ်တို့အတွက် စံနမူယူထိုက်ပေတယ်။

## အရှင်မြတ်ထံမှ ချစ်နဗီ ﷺ သို့ မြတ်စလာမ်

အိဗ်နေ့အဗ္ဗားစ် رضي الله عنهما ထံမှဆင့်ပြန်ချက်လာရှိပါတယ်။ “တစ်ရက် ဟဇရသ်ဂျဗ်ရအီးလ် عليه السلام ကိုယ်တော်သခင်ထံ ကြွမြန်းလာတော်မူပြီး မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်က ကိုယ်တော်သခင်ကို စလာမ်ဆက်သလိုက်ပါတယ်”လို့ စလာမ်သဝဏ်လွှာပါးခဲ့ပါတယ်။

📖သွဗ်ရာနီကျမ်း၊ ဟဒီးဆ်အမှတ်(၁၂၇၃၆)

## အရှင်မြတ်ထံမှ မိခင်မွန်ခဒီဂျာ ﵂ သို့ မြတ်စလာမ်

ဂျစ်ဗ်ရအီးလ် ﵇ က ကိုယ်တော်သခင် ﷺ ထံလျှောက်ထား ခဲ့ပါတယ်။ "မြင့်မြတ်တော်မူသော အရှင်မြတ်ပေးပို့တဲ့စလာမ် ခဒီဂျာ ﵂ သခင်မကိုဆက်သပေးပါ၊ ပြီးတော့ဂျန္နသ်မှာ အိမ်တစ်ဆောင် ချီးမြှင့်မယ့်အကြောင်း သတင်းကောင်းပါးပေးပါ။"

📖 ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ်(၃၈၂၀)

## ဂျစ်ဗ်ရအီးလ် ﵇ ရဲ့ မြတ်စလာမ်

မိခင်မွန်အာအေရှာ ﵂ သခင်မ မိန့်ပါတယ်။ "ဂျစ်ဗ်ရအီးလ် ﵇ ကောင်းကင်တမန်က အသင်မကို စလာမ်မေတ္တာပို့သနေပါ တယ်"လို့ ကိုယ်တော်မြတ် ﷺ က ကျွန်မကိုမိန့်ကြားခဲ့ပါတယ်။ ကျွန်မကလည်း "ဝအလိုင်းဟစ္စလာမ် ဝရဟ်မသွလ္လာဟ်"လို့ အဖြေ ပေးလိုက်ပါတယ်။

📖အလ်အဒဗုလ် မုဖ်ရဒ်ကျမ်း၊ ဟဒီးဆ်အမှတ်(၁၀၄၉)

ဆွဟာဗာ ﵃ များကလည်း ကိုယ်တော်သခင် ﷺ ကို ရပ်ဝေးမှ စလာမ်မေတ္တာပို့သခဲ့ကြောင်း အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ် အမှတ် (၅၂၃၁) မှာတွေ့ရပါတယ်။

## ဆွဟာဗာအချင်းချင်း ပို့သတဲ့စလာမ်

ပုဂ္ဂိုလ်တစ်ဦး စလ်မားန် ဖာရစီ ﵁ သခင်ထံရောက်လာပြီး "သခင့်ကို အဗူဒရ်ဒါး ﵁ က စလာမ်မေတ္တာပို့သလိုက်ကြောင်း

လျှောက်ထားခဲ့ပါတယ်။ စလ်မာန်ဖာရစီ ﷺ သခင်ကြီးက စလာမ် ပြန်ပြီးနောက် အသင်ဘယ်နေ့ကတည်းက ရောက်နေတာလဲလို့ မေးလိုက်တဲ့အခါ ထိုပုဂ္ဂိုလ်က “(၃)ရက်ရှိသွားပါပြီ”လို့ ဖြေကြားခဲ့ပါတယ်။ သခင်ကြီးက “မင်းဒီစလာမ်ကို မပို့သသရွေ့ မင့်ပေါ်မှာ ဒီစလာမ်ဟာ အမာနသ်အဖြစ် တင်ရှိနေမှာ ဖြစ်တယ်လို့ သတိပေးလိုက်ပါတယ်။

📖ရှရ်ဟွတ်စွန္နဟ်ကျမ်း၊ အတွဲ(၁၂)၊ စာ(၂၆၈)

## ကျွန်ုပ်တို့အွမ္မသ်ထံ အိဗ်ရာဟီးမ် ﷺ သခင်ရဲ့ မြတ်စလာမ်

မိအ်ရားဂျ်ညမှာ ကျွန်ုပ်တို့အွမ္မသ်ကို အိဗ်ရာဟီးမ် ﷺ သခင်ကြီးက ချစ်နဗီ ﷺ ကနေတဆင့် စလာမ်မေတ္တာပို့သခဲ့ပါတယ်။

📖သိရ်မေ့ဇီကျမ်း၊ ဟဒီးဆ်အမှတ်(၃၄၈၄)

## ရပ်ဝေးမှစလာမ်ပို့သသူကို စလာမ်ပြန်နည်း

တစ်ဦးဦးက ရပ်ဝေးကနေ စလာမ်ပို့သလိုက်ရင် စလာမ်ပို့သခံရသူက “အလိုင်းက ဝအလိုင်းဟိစ္စလာမ်” (အသင်နဲ့ထိုသူတို့နှစ်ဦးလုံးပေါ်မှာ ငြိမ်းချမ်းသာယာမှုများ ကျရောက်ပါစေသား) လို့ စလာမ်ပြန်ပေးရပါမယ်။

📖အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ်(၅၂၃၁)

ဤစလာမ်ကို ချက်ချင်းပြန်ဖို့လိုအပ်ပါတယ်၊ အကြောင်းမဲ့နောက်ဆိုင်းထားခြင်းဟာ မက္ကရူးဟ်သဟ်ရီမီဖြစ်စေပါတယ်။

📖ရဒ်ဒွလ်မုဟ်သားရ်ကျမ်း၊ အတွဲ(၉)၊စာ(၅၉၃-၅၉၅)

❁ ခွင့်တိုင်စာ၊ အသနားခံစာ၊ ရိုးရိုးစာလွှာများ ရေးသားပေးပို့ချိန် အစမှာ စလာမ်ရေးသကဲ့သို့ စာရဲ့အဆုံးမှာလည်း စလာမ်ရေးသင့်ပါတယ်။

📖 ရှရ်ဟွတ်စွန္နဟ်ကျမ်း၊ ဟဒီးဆ်အမှတ်(၂၆၆၈)

❁ အစ္စလာမ်သာသနာတော်မှာ ဆွေမျိုးညာတိများကို အဆက်ထားဖို့ လေးလေးနက်နက် တိုက်တွန်းနှိုးဆော်မှုများလာရှိထားပါတယ်။ စာနဲ့ဖြစ်စေ၊ ဖုန်းနဲ့ဖြစ်စေ၊ တစ်ယောက်ယောက်နဲ့ ဖြစ်စေ၊ စလာမ်မေတ္တာပို့သခြင်းဟာ ဆွေမျိုးဆက်ခြင်းတစ်မျိုးဖြစ်ကြောင်း ပညာရှင်များက ရေးသားဖော်ပြထားပါတယ်။

📖ရဒ်ဒွလ်မုဟ်သားရ်ကျမ်း၊ အတွဲ(၉)၊စာ (၅၉၀)

## ဖုန်းဖြင့်စလာမ်

ဖုန်းအသုံးပြုခြင်းဟာ ဘဝရဲ့ အစိတ်အပိုင်းတစ်ခုဖြစ်နေပါတယ်။ ဝေးနေသူတွေကဖုန်းကြောင့် နီးကပ်လာရပါတယ်။ ဖုန်းက ကျွန်ုပ်တို့အတွက် အကျိုးများစွာ ဖြစ်ထွန်းစေသလို ဆိုးကျိုးတွေကိုလည်း သယ်ဆောင်လာနိုင်ပါတယ်။ အသုံးပြုသူ၊ အသုံးပြုသည့် ရည်ရွယ်ချက်၊ အသုံးပြုသည့်နေရာ ဒါတွေကိုအခြေခံပြီး ဖုန်းအသုံးပြုခြင်းနဲ့ပတ်သတ်တဲ့ အမိန့်တွေကလည်း ကွဲပြားသွားတတ်ပါတယ်။

ဖုန်းဖြင့်စလာမ်ပေးခြင်း၊ ယူခြင်း စသည်တို့ဟာလည်း ခေတ်သစ် မတ်စ်အလေ့ဟာများအနက် တစ်ခုဖြစ်သောကြောင့် ဤနေရာတွင် ဖုန်းဖြင့်စလာမ်ပေးခြင်း၊ ယူခြင်းဆိုင်ရာ အမိန့်ပညတ်ချက်အချို့ကို ကောက်နှုတ်တင်ပြသွားလိုပါတယ်။

## ဖုန်းစတင်ဆက်သူမှ ဦးစွာစလာမ်

❁ ဖုန်းစတင် ဆက်သူသည် အပြင်မှာအရင်းဆုံးတွေ့ဆုံသူရဲ့ အမိန့်မှာရှိကြောင်း ဖေကဟ်ပညာရှင်များက မှတ်ချက်ပြုထားပါတယ်။ ဒါကြောင့် ဖုန်းစတင်ဆက်သူဟာ တစ်ဖက်လူမှာ မွတ်စ်လင်မ်ဖြစ်ကြောင်း ကောင်းစွာ သိရှိရပါက ဦးစွာစလာမ်ပေးဖို့လိုအပ်ပါတယ်။ ဒီလိုနဲ့သူဟာ ဆဝါးဗ်နှစ်ခုကို တစ်ပြိုင်နက်ရရှိသွားပါတယ်။ (၁) စလာမ်ပေးခြင်းရဲ့ဆဝါးဗ်၊ (၂) ဦးစွာစလာမ်ပေးခြင်းရဲ့ဆဝါးဗ်

📖ဟင်န်ဒီယဟ်ကျမ်း၊ အတွဲ(၅)၊စာ(၃၂၄)

📖အန္ဒဝါးရေ့ ရဟ်မသ်ကျမ်း၊ စာ(၁၀၆)

❁ ဖုန်းစတင်ပြောစဉ် Hello ဖြင့် ဖုန်းအစမပြုသင့်ပါ၊ စလာမ်ဖြင့် အစပြုသင့်ပါတယ်။ မွတ်စ်လင်မ်၊ ကာဖိရ်မှန်းမသိရသေးပါက "ဟုတ်ကဲ့ လူကြီးမင်းအမိန့်ရှိပါ" စတဲ့ စကားရပ်မျိုးနဲ့စတင်ပါ။ ဖုန်းစကားပြောပြီး အဆုံးသတ်ခါနီးမှာလည်း "ခိုဒါဟာဖိဇ်၊ ok" စတဲ့ စကားမျိုးတွေနဲ့ အဆုံးမသတ်ဘဲ စလာမ်နဲ့သာ အဆုံးသတ်သင့်ပါတယ်။

📖သိရ်မေ့ဇီကျမ်း၊ ဟဒီးဆ်အမှတ်(၂၇၀၇)

📖အစွလာမ်းက နိဗ္ဗာမေ့စလာမ်၊စာ(၂၃၉)

❁ အချို့ညီနောင်များဟာ "အတ်စ်လာမိုအလိုင်းကွန်မ်း" ကို မိမိတို့ဖုန်း ring tone အနေနဲ့ set လုပ်ကြပါတယ်၊ စလာမ်ဆိုတာ အရှင်မြတ်ရဲ့နာမတော်၊ ငြိမ်းချမ်းမှုတွေဖြန့်ကျက်တဲ့ စာသားဖြစ်ပါတယ်။ ဒါကြောင့် ဖုန်းလာကြောင်း အသိပေးတဲ့နေရာမှာ ဤမွန်မြတ်လှတဲ့စာသားများကို အသုံးမပြုသင့်ပါ။

📖အစွလာမ်းက နိဗ္ဗာမေ့စလာမ်း၊စာ(၂၄၀)

❁ မိနစ်အပိုင်းအခြားအနည်းငယ်တစ်ကြိမ် ဖုန်းဆက်လာသူရဲ့ စလာမ်ကိုတော့ ပြန်လိုက်ရင်လည်းပိုင်သလို မပြန်ဘဲလည်း နေခွင့်ရှိပါတယ်။

📖အဟ်စနွလ်ဖသာဝါကျမ်း၊ အတွဲ(၈)၊စာ(၁၄၃)

## စလာမ်ပြန်ခြင်းဆိုင်ရာ ပညတ်ချက်များ

❁ စလာမ်ပြန်သူဟာ وعليكم السلام ဆိုပြီး و အက္ခရာကိုပါ ထည့်သွင်းပြန်ဆိုသင့်ပါတယ်။

❁ စွံ့အနေသူကလက်ဟန်ခြေဟန်နဲ့ စလာမ်ပေးလာရင် နှုတ်နဲ့စလာမ်ပြန်ဖို့လိုအပ်ပါတယ်။

❁ နားမကြားသူတစ်ဦးက စလာမ်ပေးလာရင်တော့ သူ့ကို နှုတ်နဲ့ရော လက်ဟန်ခြေဟန်နဲ့ပါ စလာမ်ပြန်လိုက်ရပါမယ်။

📖အွမ်ဒသွလ်ကာရီကျမ်း၊ အတွဲ(၁၅)၊စာ(၃၄၆)

❁ မွတ်စ်လင်မ်မဟုတ်သူများက စလာမ်ပေးလာရင်တော့ “ဝအလိုင်းကွန်မ်” လို့ပဲ ပြန်လည်ဖြေကြားပေးလိုက်ပါ။

📖 ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ်(၆၂၅၈)

❁ နှစ်ဦးလုံးတစ်ပြိုင်နက် စလာမ်ပေးလိုက်ပါက နှစ်ဦးလုံးဟာ စလာမ်ပြန်ဖို့လိုအပ်ပါလိမ့်မယ်။

📖 အာလမ်ဂီရီကျမ်း၊ အတွဲ(၅)၊ စာ (၃၂၅)

❁ တစ်ဦးတစ်ယောက်က လူအုပ်စုကို စလာမ်ပေးလိုက်တဲ့အခါ အားလုံးရဲ့အစား တစ်ဦးတည်းက စလာမ်ပြန်လိုက်မယ်ဆိုရင် အထမြောက်သွားပေမယ့် အားလုံးကလည်း စလာမ်ပြန်တဲ့ဆဝါးဗ်ကို ရယူသင့်ပါတယ်။

❁ စလာမ်ပြန်ချိန် ဦးခေါင်းလှုပ်ရမ်းပြခြင်းဟာ စလာမ်ကို မထေမဲ့မြင်ပြုရာရောက်ကြောင်း ဟဇရသ်ထာနဝီ သခင်ကြီးက မိမိရဲ့ ဟောကြားချက်တွေမှာ အတိအလင်းအမိန့်ရှိထားပါတယ်။

📖ခွသ်ဗာအးသ် ဟကီးမွလ်အွမ္မသ်၊ အတွဲ(၂၈)၊စာ(၁၂၃)

# စလာမ်ဘာကြောင့်ပေးရလဲ
# (သို့)
# စလာမ်ပေးခြင်းရဲ့အနှစ်သာရများ

အစ္စလာမ်ဆိုတာ စာဒကမဲ့ အမိန့်နာခံခြင်းကို ဆိုလိုပါတယ်။ မြင့်မြတ်တော်မူသောအရှင်မြတ်က လူသားတွေအပေါ်မှာ ချမှတ်ပေးတဲ့ အမိန့်ပညတ်ချက်တွေနဲ့ ပတ်သက်ပြီး အကြောင်းတရားတွေ၊ အကျိုးတရားတွေကို လူသားတွေက နားလည်သည်ဖြစ်စေ၊ နားမလည်သည်ဖြစ်စေ၊ ဉာဏ်မီသည်ဖြစ်စေ၊ မမီသည်ဖြစ်စေ လိုက်နာရန်လိုအပ်ပါတယ်၊ သို့ပေမယ့်လည်း ဟဇရသ် ထာနဝီ သခင်ကြီးက အဇဗာဒသ်တွေရဲ့ အကြောင်းတရားတွေ၊ အကျိုးတရားတွေ၊ အနှစ်သာရတွေ၊ လျှို့ဝှက်ချက်အမြုတေတွေကို သိခြင်းအားဖြင့် စိတ်တည်ငြိမ်မှုတွေ၊ အရသာတွေပိုမိုရှိစေတတ်ပါတယ်လို့ မိန့်ဆိုထားပါတယ်။

ဒါ့ကြောင့် စလာမ်ပေးခြင်းဆိုင်ရာ အနှစ်သာရတွေ၊ အကျိုးတရားတွေ၊ အကြောင်းတရားတွေကိုလည်း ဤနေရာမှာ အကျဉ်းရုံးတင်ပြအပ်ပါတယ်။

ဟဇရသ်ရှားဟ်ဝလီယွလ္လာ သခင်ကြီးက မိမိရဲ့ ကမ္ဘာကျော်ကျမ်း ဟွဂ်ျဂျသွလ္လာဟိလ်ဘာလေ့ဂဟ်၊ အတွဲ (၂)၊ စာ (၁၉၆) မှာ စလာမ်နဲ့ပတ်သက်တဲ့ အနှစ်သာရတွေကို အကျယ်တဝင့်ရေးသားဖော်ပြထားပါတယ်။ ဒီနေရာမှာတော့ သခင်ကြီးရဲ့တင်ပြချက် အနှစ်ချုပ်ကို ဖော်ပြလိုက်ပါမယ်။ “လူသားတိုင်းမှာလိုအပ်ချက်တွေရှိပါ

တယ်။ ဒီလိုအပ်ချက်တွေကို အချင်းချင်းဖြေရှင်းဖို့အတွက် နိဒါန်း ရှိသေသမှုတွေ လိုအပ်လာပါတယ်။ ဒီနိဒါန်းတွေနဲ့အစပျိုးပြီး မိမိတို့လိုရာကို ဖြေရှင်းနိုင်ပါတယ်။ (ဒီနိဒါန်းတွေမှာ တစ်ကမ္ဘာလုံး တညီတညွတ်တည်း လက်ခံကျင့်သုံးနေတဲ့ ရှိသေသမှုတွေမှာ စလာမ် နှုတ်ခွန်းဆက်သခြင်းလည်း အပါအဝင် ဖြစ်ပါတယ်။ အရဗ်ဖြစ်စေ၊ အရဗ်မဟုတ်သူဖြစ်စေ အားလုံးရဲ့နှုတ်ခွန်းဆက်သမှုဟာ အသံနေ အသံထား၊ မူဟန်ကွဲပြားပေမယ့်လည်း ပုံစံတစ်မျိုးတည်းဖြစ်ပါတယ်။) ဒီလိုဆုံမှတ်တူ ရှိသေသမှုတွေကို သင်ကြားရှင်းလင်းပေးခြင်းဟာ နဗီတမန်တော်မြတ် ﷺ ကြွမြန်းလာရခြင်းရဲ့ ရည်ရွယ်ချက်တွေအနက်က တစ်ခုလည်း ဖြစ်နေပါတယ်။

လူတွေဟာ အချင်းချင်းတွေ့ဆုံတဲ့အချိန် ပျော်ရွှင်မှုတွေ ဖွင့်ဟပြသဖို့၊ သိမ်မွေ့မှုတွေ၊ အကြင်နာတရားတွေ ထုတ်ဖော်ပြသဖို့လည်း လိုအပ်ပါတယ်။ လူကြီးက လူငယ်ကိုကြင်နာခြင်းမျိုး၊ လူငယ်က လူကြီးကို ထောက်ထားလေးစားခြင်းမျိုးတွေဆိုတာဟာလည်း ညီနောင်ဖြစ်ခြင်းရဲ့ တောင်းဆိုချက်တွေပဲမဟုတ်လား၊ ဒီလိုကြင်နာခြင်း၊ ထောက်ထားသက်ညှာခြင်းတွေ မရှိပြန်ရင်လည်း လောကမှာ စုပေါင်းနေထိုင်ခြင်းရဲ့အရသာ၊ အနှစ်သာရတွေဟာ အလကားဖြစ်သွားနိုင်ပါတယ်။

တွေ့ဆုံချိန်ချစ်ခင်လေးစားတန်ဖိုးထားမှုတွေ၊ ပျော်ရွှင်ဝမ်းမြောက်မှုတွေကို သက်သေထူပေးမယ့် စကားလုံးတချို့ကိုလည်း

ဖန်တီးသတ်မှတ်ဖို့လိုအပ်လာပါတယ်။ ဒါ့ကြောင့်ပဲ လောကမှာ ခေတ်မီတိုးတက်ခဲ့တဲ့ နိုင်ငံတွေ၊ မျိုးနွယ်စုတွေဟာ မိမိတို့ ဉာဏ်မီရာ၊ လက်လှမ်းမီရာ နှုတ်ခွန်းဆက်စာသားတွေ တီထွင်သတ်မှတ်ခဲ့ကြပါတယ်။ နောက်ပိုင်းမှာ ဒီနှုတ်ခွန်းဆက်စာသားတွေဟာ သူတို့ရဲ့ အထိမ်းအမှတ်အဖြစ် နေရာတွေယူလာခဲ့ပါတယ်။

ဤနှုတ်ခွန်းဆက် စကားနဲ့ပတ်သက်ပြီး အစ္စလာမ့်လမ်းညွှန်ချက်ကတော့ နဗီတမန်တော်တွေ၊ ဖရစ်ရှ်သာတွေရဲ့ နှုတ်ခွန်းဆက်လမ်းစဉ်ကို ရွေးချယ်စေတယ်၊ ဒီအတွက်ရွေးချယ်လိုက်တဲ့ စာသားထဲမှာ တောင်းဆုတွေလည်းပါ၊ လောကီသက်တမ်းမှာ ငြိမ်းချမ်းသာယာပြီး၊ စိတ်အေးချမ်းမှုတွေဆောင်ကြဉ်းလာမယ့် စာသားမျိုးဖြစ်စေပါတယ်၊ အသက်ရှည်ဖို့၊ ပစ္စည်းဥစ္စာပေါများဖို့ သက်သက်လည်းမဟုတ်၊ အလေးအမြတ်ထားရာမှာ အတိုင်းအတာလွန်၊ ဘောင်ကျော်ပြီး ရှစ်ရ်ကျ်လုပ်ခြင်း၊ စဂျ်ဒဟ်လုပ်ခြင်း၊ ဝပ်တွားခြင်းတွေမပါဘဲ ရိုးရိုးသားသား နှုတ်ကနေပဲဆိုရတဲ့ “အတ်စ်လာမို့အလိုင်းကွန်းမ် ဝရဟ်မသွလ္လားဟိ ဝဘရကားသုဟူ” (အသင်တို့အပေါ်မှာ အရှင်မြတ်ဘက်တော်မှ ငြိမ်းချမ်းသာယာမှု၊ ကြင်နာသနားမှု၊ ဘရ်ကသ်မင်္ဂလာများ ခညောင်းပါစေသား) ဆိုပြီးဖြစ်ပါတယ်။

## စလာမ်မှာ ورحمة الله وبركاته တိုးရခြင်းရဲ့ အနှစ်သာရများ

အေမာမ်အိဗ်နေ့ကိုင်ယစ်မ် သခင်ရေးသားပါတယ်။ "လူသား တစ်ယောက်ဟာ မိမိရရှိထားတဲ့ဘဝကနေ အကျိုးခံစားဖို့အတွက် အချက် (၃) ချက်ကို မလွဲမသွေလိုအပ်ပါတယ်။

၁။ ဘဝနဲ့ဆန့်ကျင်တဲ့အဆိုးတွေကနေ ငြိမ်းချမ်းမှုရဖို့။

၂။ ပြည့်စုံကုံလုံတဲ့ကောင်းခြင်းတရားတွေ ရရှိဖို့။

၃။ ရရှိလာတဲ့ ကောင်းခြင်းတွေ တည်တံ့ဖို့။

ဒီအချက် (၃) ချက်လုံးကို အစ္စလာမ့်နှုတ်ခွန်းဆက်စလာမ်က ပေးစွမ်းနိုင်ပါတယ်။ "အတ်စ်လာမို့အလိုင်းကွန်း" လို့ဆိုလိုက်တာနဲ့ ဆိုးကျိုးအန္တရာယ်အသွယ်သွယ်ကနေ ထိန်းသိမ်းမှုရရှိသွားပါမယ်။ "ဝရဟ်မသွလ္လာဟိ" လို့ဆိုလိုက်တာနဲ့ ပြည့်စုံကုံလုံတဲ့ ကောင်းခြင်း တွေ ရရှိပြီးသားဖြစ်သွားမယ်။ "ဝဘရကားသုဟူ" လို့ဆိုလိုက်တာနဲ့ ရရှိထားသမျှ ကောင်းခြင်းတွေဟာ အမြဲတည်တံ့ခိုင်မြဲသွားမှာဖြစ်ပါ တယ်။

📖 ဘဒါအေ့အွလ် ဖဝါအိဒ်ကျမ်း၊ အတွဲ(၂)၊ စာ(၁၈၇)

❁ စလာမ်ရဲ့ စာသားများမှာ "ဝရဟ်မသွလ္လားဟိ ဝဘရကား သုဟူ" ထပ်တိုးခြင်းအားဖြင့် ဆဝါးဗ်တွေပိုမိုရရှိလာမှာဖြစ်ပါတယ်။ ပျော်ရွှင်ခြင်း၊ တစ်သားတည်ဖြစ်ခြင်း၊ ချစ်ခြင်း၊ ညီနောင်တစ်ဦး အတွက်ဒိုအာပြုပေးခြင်း၊ အရှင့်နာမတော်ကို ကြိမ်ဖန်များစွာ ယူခြင်း စတဲ့ အကျိုးတရားတွေကိုလည်း ရရှိအုံးမှာဖြစ်ပါတယ်။ စလာမ်ရဲ့

စာသားတွေမှာ "ဝရဟ်မသွလ္လားဟိ ဝဘရကားသုဟူ" တိုးလိုက်ခြင်း ဟာ စလာမ်ရဲ့ရည်ရွယ်ချက်၊ အနှစ်သာရတွေကို ပိုမိုတိုးပွားလာစေပါ တယ်။

📖ရဟ်မသွလ္လာဟိလ် ဝါစေ့အဟ်ကျမ်း၊အတွဲ(၅)၊စာ(၅၄၈)

မွတ်စ်လင်မ်ညီနောင်များဟာ စလာမ်ရဲ့ ဒီအနှစ်သာရတွေ၊ အဓိပ္ပာယ်သဘောတရားတွေကိုသတိရပြီး၊ ယုံကြည်ချက် အပြည့်နဲ့ စလာမ်နှုတ်ခွန်းဆက်ကြမယ်ဆို ဘယ်လောက်တောင် ကောင်းလိုက် မလဲ။ ဒုက္ခခပ်သိမ်း ငြိမ်းအေးပြီး၊ အမြဲပျော်ရွှင်ပြီး၊ နှလုံးစိတ်ဝမ်း အေးချမ်းကြပါလိမ့်မယ်။

## အကြိမ်ကြိမ် စလာမ်ပေးခြင်းရဲ့အနှစ်သာရ

လောကရဲ့ အခြေအနေတိုင်းဟာ ပြောင်းလဲခြင်းရဲ့ပစ်မှတ် အမြဲဖြစ်နေပါတယ်။ ဒါကိုထောက်ရှုပြီး ရှရီအသ်တရားတော်မြတ်က အခြေအနေတစ်ခုပြောင်းလဲသွားတိုင်း စလာမ်အသစ် ပြန်ပေးဖို့ လမ်းညွှန်ထားခြင်းဖြစ်ပါတယ်။ ဒီလမ်းညွှန်ချက်မှာ တိမ်မြုတ်နေတဲ့ အနှစ်သာရတွေထဲမှာ အချို့ကတော့ ...

စလာမ်ကိုအကြိမ်ကြိမ်ပေးလိုက်ခြင်းကြောင့် အလ္လာဟ့်ရဲ့ နာမတော်ကို အကြိမ်ကြိမ်တသခွင့်ရသွားပါတယ်။ မွတ်စ်လင်မ် ညီနောင်များကြား ပြုလုပ်ထားတဲ့ ကတိကဝတ်တွေကို အသစ် တဖန် ပြန်လည်သတိပေးခြင်းတွေပါဝင်နေပါတယ်။ ထပ်လောင်းပြီး စလာမ်ကြောင့် မွတ်စ်လင်မ်အချင်းချင်းကြားမှာ မေတ္တာတရား ပိုမို

တိုးပွားလာပြီး ချစ်ခြင်းတွေ၊ အကြင်နာတရားတွေ ပိုမိုအခြေခိုင်သွားမှာဖြစ်ပါတယ်။

(မိရ်ကားသ်ကျမ်း၊အတွဲ(၉)၊ စာ(၅၇)ကို ကိုးကားသည်။)

## နမားဇ်မှာ မုအ်မင်န်အများစုအတွက် စလာမ်

ကျွန်ုပ်တို့နေ့စဉ်ဆောက်တည်နေတဲ့ နမားဇ်မှာ သရှဟ်ဟွဒ်ဖတ်ခြင်းဟာ ဝါဂျစ်ဗ်တာဝန်ဖြစ်ပါတယ်။ သရှဟ်ဟွဒ်ရဲ့ စာသားတွေဆိုတာ မိအ်ရားဂ်ျခရီးစဉ်မှာ ကျွန်ုပ်တို့နဗီကြီး ﷺ နဲ့ မြင့်မြတ်တော်မူသော အရှင်မြတ်တို့ အချင်းချင်း ချီးမွမ်းခန်းဖွင့်တဲ့ စာသားတွေလည်းဖြစ်ပါတယ်။ သရှဟ်ဟွဒ်မှာ السلام علينا وعلى عباد الله الصالحين "ကျွန်ုပ်တို့အပေါ်မှာ ၎င်းနောက် အရှင်မြတ်ရဲ့သူတော်စင်ကျေးကျွန်များပေါ်မှာ ငြိမ်းချမ်းသာယာမှုအပေါင်း ခညောင်းပါစေ" ဆိုတဲ့ ဆုမွန်တွေလည်းပါဝင်နေပါတယ်။ မွတ်စ်လင်မ်တစ်ဦးရဲ့နှုတ်လျှာက နေ ဒီဒိုအာရွတ်ဆိုလိုက်တာနဲ့ မိုးမြေမှာရှိရှိသမျှ သူတော်မွန်တွေဆီ ငြိမ်းချမ်းသာယာမှုတွေ ရောက်ရှိသွားမှာဖြစ်ပါတယ်။ ဒီလိုသွန်သင်လမ်းညွှန်ချက်ကြောင့် စလာမ်ဟာ ပိုမိုကျယ်ပြန့်လာပြီး၊ လူသားထုတစ်ရပ်လုံးဟာလည်း ဒီအကျိုးထဲမှာ ပါဝင်ခွင့်ရရှိသွားတာဖြစ်ပါတယ်။

## နမားဇ်အဆုံးသတ် မြတ်စလာမ်

နမားဇ်ကို စလာမ်နဲ့အဆုံးသတ်ခြင်းဟာ ဝါဂျစ်ဗ်တာဝန်ဖြစ်ပါတယ်။ နမားဇ်ဖတ်သူရဲ့ နမားဇ်ထဲရောက်သွားခြင်းဟာ တခြား

ကမ္ဘာတစ်ခုဆီရောက်ရှိသွားသလိုပါပဲ။ အားလုံးနဲ့အဆက် အသွယ်ဖြတ်ပြီး အရှင်မြတ်နဲ့တီးတိုးစကားပြောခြင်းကနေ အခုလက်ရှိလောကဆီပြန်လာခဲ့ပြီး အနီးအပါးရှိသူများအားလုံးကို စလာမ်ဆက်သနေခြင်းဟာလည်း စလာမ်ရဲ့ အလှတရားတစ်ခုလို့ ဆိုရပါလိမ့်မယ်။

📖အဟ်ကားမေ့အစ္စလာမ်၊စာ(၉၈မှ၁၀၀ထိ)ကို ကိုးကားသည်။

## နမားဇ်ပြီး ဒိုအာရှိ မြတ်စလာမ်

ဟဒီးဆ်တော်တွေမှာ နမားဇ်ပြီး တောင်းခံရတဲ့ဒိုအာအမြောက်အမြား လာရှိထားပါတယ်။ ထိုဒိုအားများမှ အများသိပြီးကျော်ကြားလှတဲ့ ဒိုအာကတော့ မွတ်စ်လင်မ်ကျမ်း၊ ဟဒီးဆ်အမှတ်(၅၉၁)၊ အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ်(၁၅၁၂)မှာ လာရှိတဲ့
اَللّٰهُمَّ أنت السلام ومنك السلام تباركت ياذا الجلال والاكرام ဖြစ်ပါတယ်။
"အိုအရှင်မြတ်- အရှင်မြတ်သည်သာ ငြိမ်းချမ်းသာယာမှုအပေါင်းကိုပေးသနားတော်မူပါတယ်။ ငြိမ်းချမ်းမှုဟူသရွေ့သည်လည်း အရှင်မြတ်ထံမှသာ လာရှိပါတယ်။ အို-မွန်မြတ်ခြင်း၊ ဂုဏ်အင်အပေါင်းနှင့်ပြည့်စုံတော်မူသော အရှင်၊ အရှင်မြတ်သည် အလွန်ပင် မင်္ဂလာအပေါင်းနှင့် ပြည့်စုံကုံလုံတော်မူပါသည်။" ဒီဒိုအာမှာလည်း စလာမ်ရဲ့မွှေးရနံ့များနဲ့ ကြိုင်သင်းနေပြီး နမားဇ်အဆုံးလောကီဘဝထဲ ခြေမချခင် စလာမ်မေတ္တာကို ကွန့်မြူးစေခြင်းဖြစ်နေပါတယ်။

## ဂျနာဇာနမားဇ်အဆုံးသတ် မြတ်စလာမ်

ကွယ်လွန်သူအတွက် ဖတ်ပေးတဲ့ ဂျနာဇာနမားဇ်ကိုလည်း စလာမ်နဲ့အဆုံးသတ်ထားခြင်းဟာ စလာမ်ရဲ့အလှတရားတစ်ခုပါပဲ။ အာခိရေသ်ခရီးစတင်နှင်သူအတွက် ရှင်နေသူများဘက်က ချီးမြှင့်ပေးလိုက်တဲ့ လက်ဆောင်မွန်တစ်ခုလည်းဖြစ်နေတယ်။

## စလာမ်ဆိုင်ရာ နောက်ဆက်တွဲ ပညတ်ချက်များ

မွတ်စ်လင်မ်ညီနောင်တွေဟာ မိမိတို့ရင်သွေးငယ်တွေကို စလာမ်ပေးတတ်တဲ့အကျင့် ငယ်ငယ်ကတည်းက လုပ်ပေးဖို့ အရေးကြီးလိုအပ်ပါတယ်။ Good morning , Good bye , Tata စတဲ့ နှုတ်ခွန်းဆက်စကားကို အစ္စလာမ့်နှုတ်ခွန်းဆက်စလာမ်နဲ့ အစားထိုးပေးဖို့အရေးကြီးပါတယ်။

## စလာမ်ပေးစဉ် ထားရမည့်နီယသ်

အစ္စလာမ်သာသနာတော်ရဲ့ ကောင်းမှုအေဗာဒသ်တိုင်းမှာ နီယသ်ဟာ အလွန်အရေးပါလှပါတယ်။ စလာမ်ပေးခြင်းသည်လည်း အေဗာဒသ်တစ်ခုဖြစ်တဲ့အတွက် ဘယ်လိုနီယသ်မျိုးတွေနဲ့ ပေးရမလဲဆိုတာကို ဖေကဟ်ပညာရှင်ကြီးတွေက လမ်းညွှန်ထားပါတယ်။ ဟဇရသ်ရှိုင်ခ် မော်လာနာဇကရီယာ ﷲ رحمہ သခင်ကြီးက မိမိရဲ့ အောင်ဝ်ဂျဇွလ်မစာလိက်ကျမ်း၊ အတွဲ(၁၇)၊ စာ(၂၀၇)မှာ ရေးသားပါတယ်။ “အသင်ဟာ စလာမ်ပေးစဉ် မြေပထဝီနဲ့မိုးပေါ်မှာရှိနေတဲ့

ကွယ်လွန်သွားတဲ့၊ ရှင်နေတဲ့အဖန်ဆင်းခံအားလုံးကို သတိရ လိုက်ပါ။ ဒီလိုနီယသ်လုပ်လိုက်ခြင်းကြောင့် ဒီစလာမ်ပို့သခံရတဲ့ ဖရစ်ရှ်သာတွေက ပို့သသူအတွက် ငြိမ်းချမ်းစေဖို့ ဒုိအာတွေတောင်းပေးပါလိမ့်မယ်။ အရှင့်အေဗာဒသ်မှာမွေ့လျော်နေတဲ့ သူတော်စင်များအတွက်လည်း နီယသ်ပြုပြီးဖြစ်နေတဲ့အတွက် အားလုံးဘက်ကနေပြီးတော့ အရှင်မြတ်က စလာမ်ပြန်ပေးပါလိမ့်မယ်၊ ဒါဟာကြီးကျယ်တဲ့ ဂုဏ်ပြုခြင်းတစ်ရပ်ပါပဲ။”

ရဒ်ဒွလ်မုဟ်သားရ်ကျမ်း၊ အတွဲ(၉)၊ စာ(၅၉၆)မှာ အောက်ပါအတိုင်းရေးသားဖော်ပြထားပါသေးတယ်။ “စလာမ်ပေးသူဟာ စလာမ်ပေးစဉ် မိမိစလာမ်ဆက်သနေသူများရဲ့ ဂုဏ်သိက္ခာ၊ ဥစ္စာ၊ (မိသားစု) သားသမီးရတနာများကိုပါ ငြိမ်းချမ်းစွာထားပါမယ်လို့ နီယသ်ပြုလုပ် သင့်ပါတယ်။”

အစ္စလာမ့်လမ်းညွှန်ချက်၊ သွန်သင်ချက်တွေဟာ ဘယ်လောက်တောင် အနှစ်သာရရှိပါသလဲ၊ ဒီနှုတ်ခွန်းဆက်စလာမ်ပါဝါကျလေး (၃) ခုကိုအခြေခံပြီးတော့ ကျယ်ပြန့်လှတဲ့အတွေးတွေ၊ ပြည့်စုံကုံလုံလှတဲ့ ရည်ရွယ်ချက်တွေဆီ ခေါ်ဆောင်သွားပါတယ်။ အဓိကကတော့ နီယသ်ကိုအမြဲသတိရနေဖို့ လိုအပ်ပါတယ်။ နီယသ်ပြုလိုက်ခြင်းကြောင့် သမားရိုးကျပြုကျင့်နေကျ လုပ်ရပ်တွေဟာ အေဗာဒသ်အသွင်ပြောင်းသွားနိုင်ပါတယ်။

## ဆင်းရဲသားများအတွက် မြတ်စလာမ်

အစ္စလာမ့်လမ်းညွှန်ချက်တွေမှာ လူသားအချင်းချင်း အဆင့်အတန်းခွဲခြားခြင်းလုံးဝမရှိပါဘူး။ သက္ကဝါနဲ့သာ တစ်ဦးပေါ်တစ်ဦး သာမြတ်နိုင်မှာပါ။ ကျမ်းတော်မြတ်ကုရ်အာန်ကလည်း ကျွန်ုပ်တို့အားလုံးကို တစ်အူထုံ့ဆင်း မောင်နှမသားချင်းတွေဖြစ်ကြောင်း၊ ကိုယ်တော်သခင် ﷺ ကလည်း မွတ်စ်လင်တွေဟာ ညီရင်းအစ်ကိုတွေဖြစ်ကြောင်း ဟဒီးဆ်တော်ပေါင်းများစွာမှာ မိန့်ဆိုထားပါတယ်။ ဒါကြောင့် စလာမ်ပေးရာမှာလည်း ကျောသားရင်သားမခွဲခြားဘဲ၊ သူဌေးဆင်းရဲသားမခွဲခြားဘဲ၊ အညတရ၊ ဂုဏ်ရှင်မခွဲခြားဘဲ၊ အလွှာတွေမကန့်သတ်ဘဲ စလာမ်ပေးဖို့လိုအပ်ပါတယ်။

ကျွန်တော်တို့အများစုဟာ တံခါးစောင့်၊ ခြံစောင့်၊ ကားဆရာ၊ ဆင်းရဲသား၊ စတဲ့အခြေခံလူတန်းစားတွေကို အများအားဖြင့် စလာမ်စတင်မပေးတတ်ကြပါဘူး၊ ဒါဟာ ရိုကျိုးမှုနဲ့ဆန့်ကျင်နေပါတယ်။ သူတို့ကို ဦးစွာစလာမ်ပေးလိုက်ခြင်းကြောင့် ကိုယ့်ဂုဏ်သိက္ခာကျဆင်းမသွားပါဘူး၊ ပိုပြီးဂုဏ်သိက္ခာမြင့်မားသွားပါတယ်။

မုစ္စန္နဖ် အိဗ်နေ့အဗီရှိုင်ဗဟ် အတွဲ(၆)၊ စာ(၁၄၁)မှာ အိဗ်နေ့အုမရ် ﷺ သခင်ရဲ့မိန့်ကြားချက်ကို အောက်ပါအတိုင်းတွေ့ရှိရပါတယ်။ "တွေ့သမျှမွတ်စ်လင်မ်ကို ကိုယ်ကဦးစွာ စလာမ်ပေးခြင်းဟာ ရိုကျိုးမှုရဲ့ အရင်းအမြစ်ဖြစ်ပါတယ်။" ဖိုင်ဒွလ်ကဒီးရ်ကျမ်း၊ အတွဲ(၂)၊ စာ(၅၄၂)မှာတော့ "စလာမ်ကို များစွာပေးခြင်း၊ သိသူဖြစ်စေ၊

မသိသူဖြစ်စေ တွေ့သမျှမွတ်စ်လင်မ်ကို စလာမ်ပေးခြင်း၊ အထူးသဖြင့် သူဆင်းရဲများ ကျောမွဲများကို စလာမ်ဦးစွာပေးခြင်းဟာ မလွဲမသွေ မင်္ဂလာရှိစေမယ့်အချက်များမှာ ပါဝင်နေကြောင်း ဖော်ပြထားပါတယ်။”

## စလာမ်ပြန်သံမကြားရလို့ အထင်မမှားစေဖို့

စလာမ်ပြန်ခြင်းဟာ ဝါဂျစ်ဗ်တာဝန်ဖြစ်ပါတယ်။ အကြောင်းမဲ့ စလာမ်မပြန်လိုက်ခြင်းကြောင့် အချင်းချင်းကြားမှာ ရန်ညှိုးတွေ၊ အမုန်းတရားတွေပေါက်ဖွားလာနိုင်ပါတယ်။ သို့ပေမယ့် တစ်ခါတစ်ရံ ရှေ့လူက အကြောင်းအမျိုးမျိုးကြောင့်၊ အတွေးတစ်ခုခုမှာ နစ်မွန်းနေခြင်းကြောင့် စလာမ်သံကိုမကြားရဘဲ မပြန်ဖြစ်တာလဲ ရှိနိုင်ပါတယ်။ ဒီလိုအခိုက်အတန့်မျိုးမှာ စလာမ်ပေးသူက အထင်မမှားဖို့ လိုအပ်ပါလိမ့်မယ်။

မွတ်စ်နဒ်အဗီယအ်လာကျမ်း၊ ဟဒီးဆ်အမှတ် (၁၃၃) မှာ ကြီးကျယ်တဲ့ဆွဟာဗာကြီးတွေရဲ့ ရွှေရောင်အဖြစ်အပျက်လေးတစ်ခုကို အောက်ပါအတိုင်းဖော်ပြထားတာတွေ့ရပါတယ်။ “တစ်ရက် အိုမရ် ﷵ သခင်ကြီးဟာ ဟဇရသ်အွတ်ဆ်မားန် ﷵ သခင်နားကနေဖြတ်သွားစဉ် စလာမ်မေတ္တာပို့သလိုက်ပါတယ်။ အွတ်ဆ်မားန် ﷵ သခင်က တစ်စုံတရာအဖြေမပေးလိုက်တဲ့အတွက် အုမရ် ﷵ သခင်ကြီးက အဗူဗကရ် ﷵ သခင်ကြီးကို သွားရောက်တိုင်ကြားလိုက်ပါ

တယ်။ ဒီလိုနဲ့ သခင်ကြီးနှစ်ပါးလုံးဟာ စလာမ်မပြန်ရခြင်းရဲ့ အကြောင်းကို မေးမြန်းဖို့အတွက် အွတ်ဆ်မားန် ﷺသခင်ထံရောက်ရှိ လာတော့တယ်။ အွတ်ဆ်မားန်ﷺသခင်က “ကျွန်တော်အတွေး တစ်ခုမှာနစ်မျောနေမိတဲ့အတွက် အိုမရ် ﷺ သခင်ကြီးရဲ့ စလာမ်ပင်ဝေးစွ သခင်ကြီးရဲ့ ခြေသံကိုပင် မကြားမိလိုက်ပါလို့ ဖြေကြားလိုက်ပါ တယ်။ ကျွန်တော်စဉ်းစားနေမိတဲ့အချက်ကတော့ ဒီအွမ္မသ်ရဲ့ လွတ်မြောက်ခြင်းဟာ ဘယ်လုပ်ရပ်မှာရှိနေလဲ၊ ဒီအချက်ကို ကိုယ်တော်မြတ် ﷺ ရှိစဉ်ကလည်း ကျွန်တော်မေးမြန်းဖို့ မေ့သွားခဲ့ တယ်။ အခုတော့ ကိုယ်တော်ﷺသခင်ဟာလည်း ကျွန်တော်တို့ထံမှာ မရှိတော့ဘူး။ ထိုအခါ အဗူဗက်ရ် ﷺ သခင်က (မစိုးရိမ်ပါနဲ့) ဒီအ ချက်ကို ကျွန်တော်မေးထားပါတယ်။ ကိုယ်တော်သခင် ﷺ က ဒီအွမ္မသ်ကိုအောင်မြင်မှုတွေပေးမယ့် အချက်ကတော့ ငါကိုယ်တော် မိမိဘကြီးတော် အဗူသွာလိဗ်ကို တင်ပြခဲ့တဲ့ကလိမာ "لا إله إلا الله" ပဲဖြစ်တယ်။ မည်သည့်မုအ်မင်န်မဆို ဒီကလိမဟ်တော်ကို ရွတ်ဖတ် လိုက်ပြီး သူ့ရဲ့တောင်းဆိုချက်တွေပေါ်မှာ လိုက်နာကျင့်သုံးလိုက် မယ်ဆိုရင်တော့ အောင်မြင်မှုကို မုချရရှိသွားမှာဖြစ်ပါတယ်လို့ ဖြေ ကြားခဲ့ပါတယ်။

ဒီအဖြစ်အပျက်ကနေ သိရတာက စလာမ်မပြန်ရခြင်းဟာ အကြောင်းကြောင်းအမျိုးမျိုးကြောင့်ဖြစ်တယ်ဆိုတာကို နှလုံးသွင်း

ထားဖို့လိုအပ်ပါတယ်။ အခြေအနေအရပ်ရပ်ကို သေချာသုံးသပ်ပြီးမှသာ အရာရာကိုဆုံးဖြတ်သင့်ပါတယ်။

## သူတော်စင်များကို စလာမ်ပေးပါ

လောကမှာ အလ္လာဟ့်အချစ်တော် သူတော်စင်တွေ အမြောက်အမြားရှိနေပါတယ်။ ထိုသူတော်စင်တွေကို သွားရောက်တွေ့ဆုံခြင်း၊ ၎င်းတို့အနီးအပါးခစားခြင်း၊ ၎င်းတို့ရဲ့ စကားတွေနားထောင်ခြင်းတို့ကြောင့် နှလုံးသားကမ္ဘာ ပြောင်းလဲသွားနိုင်ပါတယ်။ ထိုသူတော်စင်ကြီးတွေထံကနေ မိမိတို့အတွက် ဒိုအာဆုမွန်ကောင်းများ တောင်းခံပေးဖို့ မေတ္တာရပ်ခံသင့်ပါတယ်။ ကျမ်းတော်မြတ်ကုရ်အာန် စူရဟ်သောဝ်ဗဟ်၊ အာယသ်(၁၁၉)မှာ မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်က "အို-အီမာန်သက်ဝင် ယုံကြည်ထားကြသူတို့၊ အရှင်မြတ်ကိုကြောက်ကြကုန်၊ ထို့နောက် သစ္စာဝါဒီများနှင့် အတူ နေထိုင်ကြကုန်" လို့ အမိန့်ရှိထားပါတယ်။

ကိုယ်တော်မြတ် ﷺ ကလည်း ဆွဟာဗာကြီးများအား မိမိအတွက် ဒိုအာပြုပေးရန် မိန့်ကြားခဲ့ကြောင်း ဟဒီးဆ်တော်များမှာ တွေ့ရှိရပါတယ်။ အုမရ် ؓ သခင်ကြီးကို ဒိုအာပြုပေးဖို့ မိန့်ကြားခဲ့ကြောင်း အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ်(၁၄၉၈) မှာ တွေ့ရှိရပါတယ်။

## ဟာဂျီထံမှ ဆုဒိုအာ

ဟဂျ်ပြုပြီးပြန်လာတဲ့ ဟာဂျီတစ်ဦးဟာ အိမ်ကို မရောက်ခင် ၎င်းကို စလာမ်နှုတ်ခွန်းဆက်သပြီး ထိုသူ့ထံမှ မိမိတို့အတွက် အမှား ဝန်ချတောင်းပန်ပေးဖို့ တောင်းဆိုခြင်းဟာလည်း အလှတရား တစ်ခု ဖြစ်ကြောင်း မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ ဟဒီးဆ်အမှတ်(၆၁၁၂)ကနေ သိရှိရပါတယ်။

အထက်ပါဟီးဆ်တော်များကို ကိုးကားပြီး မွလ္လာအလီကာရီ رحمه الله သခင်ကြီးက မိမိရဲ့ ကမ္ဘာကျော် မိရ်ကားသ်ကျမ်း၊ အတွဲ(၅)၊ စာ(၂၈၀)မှာ "အွမ္မရဟ်ပြုပြီးပြန်လာသူ၊ ဒီးန်အတွက်သက်စွန့်ဆံ ဖျားကြိုးပမ်းရာမှပြန်လာသူ၊ သာသနာ့ပညာ ဖွေရှာပြီး ပြန်လာသည့် ကျောင်းသားများထံမှလည်း အထက်ပါအတိုင်း တောင်းဆိုသင့် ကြောင်း အကြံပြုထားပါတယ်။

## သက်မဲ့တွေလည်း ကြိုက်တဲ့မြတ်စလာမ်

စလာမ်ဆိုခြင်းဟာ မည်မျှနှစ်သက် ဖွယ်ကောင်းတဲ့ လုပ်ရပ် လည်းဆိုရင် သက်မဲ့တွေကပင် ဒီစလာမ်ကို နှစ်သက်ကြကြောင်း တွေ့ရှိရပါ တယ်။

ဗိုခါရီကျမ်း၊ဟဒီးဆ်အမှတ်(၃၆၅၃)မှာ "ကျောက်တုံးတစ်တုံး ဟာ ကိုယ်တော် ﷺ နဗီဖြစ်စ အချိန်တုန်းက ကိုယ်တော့်ကို အမြဲ စလာမ်ဆက်သလေ့ရှိကြောင်း" လာရှိပါတယ်။

အလီ ﷻ သခင်ရဲ့ကိုယ်တွေ့ဖြစ်ရပ်တစ်ခုကတော့ “ကျွန်ုပ် ကိုယ်တော်မြတ် ﷺ နဲ့အတူ မက္ကဟ်မြို့ရဲ့ အစွန်အဖျားတွေကို သွား ရောက်တဲ့အခါ ကိုယ်တော်ရဲ့ရှေ့မှာ ရောက်ရှိလာတဲ့တောင်၊ သစ်ပင် အားလုံးဟာ السلام عليك يا رسول الله ဆိုပြီး စလာမ်မေတ္တာ ပို့သခဲ့ပါ တယ်။

📖တိုရ်မိဇီကျမ်း၊ ဟဒီးဆ်အမှတ်(၃၆၅၅)

## မှတ်သားရန်

ကိုယ်တော်မြတ် ﷺ ဝဖားသ်ဖြစ်ပြီးနောက် အဝေးမှ ကိုယ် တော်မြတ် ﷺ ဆီစလာမ်ဆက်သရာတွင် السلام عليك ဟု ဆက်သခွင့် မရှိပါ။ ကိုယ်တော်မြတ် ﷺ ရဲ့ရှေ့မောက်၊ ရောင်ဝ်သွာတော်ရှေ့မှာ မတ်တပ်ရပ်ပြီး စလာမ်ပို့သချိန်မှသာ السلام عليك يا رسول الله ဟု ဆက် သရမည်။

အေမာမ်ဗိုင်ဟကီသခင်ကြီးရဲ့ ရှုအဗွလ်အီမာန်ကျမ်း၊ ဟဒီးဆ် အမှတ် (၁၄၈၁) မှာ အောက်ပါအတိုင်း ကိုယ်တော်မြတ် ﷺ ရဲ့ မိန့်ကြားချက်ကို ဖော်ပြထားပါတယ်။ “ငါကိုယ်တော်ရဲ့ ကဗရ်ရှေ့ မောက်မှာ ဒရူးဒ်စလာမ် ပို့သသူရဲ့ ပို့သချက်ကို ငါကိုယ်တော် ကဗရ် ထဲမှ ကြားနေရပြီး၊ အဝေးမှ ဒရူးဒ်စလာမ်ပို့သသူတို့ရဲ့ ဒရူးဒ်စလာမ် လက်ဆောင်များကိုတော့ဖြင့် ဖရစ်ရှ်သာကောင်းကင်တမန်များမှ တ ဆင့် ငါကိုယ်တော်ထံ ဆက်သခံရသည်။”

## "အတ်စ်လားမှ" ဟူသော ဂူဏ်တော်ရဲ့အစွမ်း

"အတ်စ်လားမှ" ဟူသော အရှင်မြတ်ရဲ့ ဂုဏ်တော်မှာ ထူးခြားလှတဲ့ အကျိုးအာနိသင်တွေ ကိန်းအောင်းနေကြောင်း မဇ္ဇာပဟ္ဂရေ့ဟတ်က်ကျမ်း၊ အတွဲ(၃)၊ စာ(၁၁၈)မှာ ဖော်ပြထားပါတယ်။ "တစ်ဦးတစ်ယောက်က ဒီဂုဏ်တော်ကို နာမကျန်း ဖြစ်နေသူ အနီးမှာ အကြိမ် (၁၀၀) ဖတ်ရွတ်လိုက်ပါက အရှင်မြတ်ဟာ ထို ရောဂါသည်ကို ၎င်းခံစားနေရတဲ့ ဝေဒနာများမှ ပျောက်ကင်းမှု ချီးမြှင့်တော်မူမည်။ မည်သူမဆို ဒီဂုဏ်တော်ကို အစဉ်အမြဲဖတ်ရွတ် နေမယ်ဆိုပါက ထိုသူဟာ ကြောက်ရွံ့မှုအပေါင်းမှ ကင်းဝေးမှာဖြစ်ပါ တယ်။

## စလာမ်နှင့်စပ်လျဉ်းသည့် အိပ်မက်သဘော

မှန်ကန်သော အိပ်မက်များမှာ မွတ်စ်လင်မ်တို့အတွက် နိဒါန်း သတင်းကောင်းများ သဖွယ်ဖြစ်ပါတယ်။

သာသနာ့ပညာရှင်ကြီးများက အိပ်မက်တွင် စလာမ်မြင်မက် ခြင်းနဲ့ ပတ်သက်ပြီး မိမိတို့လက်လှမ်းမီရာတင်ပြထားပါတယ်။ အထူးသဖြင့် အိပ်မက်သဘောဖွင့်ဆိုရာတွင် အေမာမ်ကြီး တစ်ပါးဖြစ် သည့် အေမာမ် မုဟာမ္မဒ်ဗင်န်စီရီးန် ﷲ رحمه သခင်ကြီးရဲ့ သဖ်စီးရွလ် အဟ်လားမ်ကျမ်း၊ သတ္တမအခန်း၊ အိပ်မက်တွင် စလာမ်မြင်မက်ခြင်း ဆိုင်ရာ သဘောတရာများအခန်း) မှ အိပ်မက်တွင် စလာမ်မြင်မက်

ခြင်းဆိုင်ရာ သဘောတရားတချို့ကို တင်ပြလိုက်ရပါတယ်။ အိပ်မက်ဆိုသည်မှာ ဝဟီမဟုတ်သည့်အတွက် ရာနှုန်းပြည့် မှန်ချင်မှ မှန်မည်ဖြစ်သည်။ အိပ်မက် မက်ချိန်၊ မက်သူ၊ မက်သည့်နေရာ စသည်တို့ကို အခြေခံပြီး အိပ်မက်သဘောလည်း ကွဲလွဲနိုင်သည်ကို သတိပြုသင့်ပါသည်။

❀ တစ်ဦးတစ်ယောက်ဟာ မိမိနဲ့ရန်ညှိုးရန်စမရှိသူတစ်ဦးကို အိပ်မက်တွင် စလာမ်ပေးနေသည်ဟု မြင်မက်ပါက စလာမ်ဆက်သခံရသူဘက်မှ စလာမ်ဆက်သသူကို သက်သာမှု၊ ငြိမ်းချမ်းသာယာမှုများ ရရှိစေမည့် သဘောဆောင်ပါတယ်။

❀ အကယ်၍ ရန်ညှိုးရန်စများရှိနေသူကို စလာမ်ပေးတယ်လို့ မြင်မက်ခြင်းဖြင့် မြင်မက်သူဟာ ရန်သူရဲ့ အန္တရာယ်ပေးမှုကနေ လွတ်မြောက်မှု ရရှိမယ့်သဘောဆောင်ပါတယ်။

❀ အိပ်မက်မှာ သိကျွမ်းမှုမရှိတဲ့အဖိုးအိုတစ်ဦးကို စလာမ်ပေးတယ်လို့ မြင်မက်သူဟာ အရှင်မြတ်ရဲ့ အဇာဗ်ကနေလွတ်မြောက်ခြင်းရဲ့ လက္ခဏာဖြစ်ပါတယ်။

❀ သိကျွမ်းတဲ့ အဖိုးအိုကို စလာမ်မေတ္တာပို့သခြင်းရဲ့ သဘောကတော့ (လူပျိုဆိုရင်) လှပတဲ့အမျိုးသမီးတစ်ဦးနဲ့ ထိမ်းမြားရမယ့်သဘောဆောင်သလို၊ အမျိုးမျိုးသော သစ်သီးဝလံများရရှိခြင်းသဘောလည်းဆောင်ပါတယ်။ ဤအချက်ကို ကုရ်အာန်ကျမ်းမြတ် စူရဟ်ယာစီးန်လာ အာယသ်တော် ....

﴿ لَهُمْ فِيهَا فَاكِهَةٌ وَلَهُم مَّا يَدَّعُونَ ﴿٥٧﴾ سَلَامٌ قَوْلًا مِّن رَّبٍّ رَّحِيمٍ ﴿٥٨﴾ ﴾ [يس: ٥٧ – ٥٨].

"(၎င်းတို့အဖို့ ယင်းဂျန္နသ်သုခဘုံ၌ (အမျိုးမျိုးသော) သစ်သီးဝလံများလည်း ရှိကြပေမည်။ ၎င်းတို့အဖို့ ၎င်းတို့တောင်းသမျှသော အရာများလည်း ရှိကြပေမည်။)" ကို ကိုးကားတင်ပြခြင်းဖြစ်ပါတယ်။

❀ မသိသော လူငယ်တစ်ယောက်က အိပ်မက်မှာစလာမ်ပေးခြင်းရဲ့ သဘောကတော့ မိမိရဲ့ရန်သူတွေရဲ့ အဆိုးပြုမှုကနေ လွတ်မြောက်မှု ဖြစ်ပါတယ်။

❀ လူနှစ်ဦးကြားမှာ စီးပွားရေးတစ်ခုလုပ်နေချိန် အိပ်မက်မှာ စလာမ် ရဲ့အဖြေကြားနာလိုက်ပါက ထိုသူနှစ်ဦးရဲ့ စီးပွားရေးဟာ ခိုင်မာမည့် သဘောဆောင်ပါတယ်။ စလာမ်ရဲ့အဖြေမကြားခြင်းဟာ စီးပွားရေး မှာ သဟာဇာတမဖြစ်မှု သဘောဆောင်ပါတယ်။

## စလာမ်ပေးစဉ် မတ်တပ်ရပ်ခြင်း

စလာမ်ပေးချိန် မတ်တပ်ရပ်ခြင်းရဲ့အမိန့်နဲ့ပတ်သက်ပြီး ဟဒီးဆ်တော်တွေ၊ ဖေကဟ်စာအုပ်တွေမှာ အမြောက်အမြားတွေ့ရှိရပါတယ်။

## မတ်တပ်ရပ်ခြင်းရဲ့ အမျိုးအစားများ

အေမာမ်အိုင်နီ ﷲ ﺭﺤﻤﻪ သခင်ကြီးက မိမိရဲ့ အွမ်ဒသွလ်ကာရီ ကျမ်း၊ အတွဲ(၁၅)၊ စာ(၃၇၆) မှာ မတ်တပ်ရပ်ခြင်းရဲ့ အမျိုးအစား(၄) မျိုးကို ရေးသားဖော်ပြထားပါတယ်။

၁။ တားမြစ်ထားသောရပ်ခြင်း။

လူတစ်ဦးဟာ မာန်မာနကြောင့် မိမိလာသောအခါ လူတို့အား မတ်တပ်ရပ်ခိုင်းခြင်း။

၂။ မက္ကရူးဟ် ဖြစ်စေသောရပ်ခြင်း။

လူတစ်ဦးဟာ မာနရှိသူလည်းမဟုတ်၊ သူ့အတွက်လူတွေဟာ မတ်တပ်ရပ်ပေးတဲ့ အစဉ်အလာလည်းမရှိ၊ သို့ပေမယ့် သူ့အတွက် မရပ်ပေးပါက ဆိုးရွားမှုတစ်စုံတရာ ဖြစ်နိုင်တဲ့အတွက်ကြောင့် ရပ်ခြင်း

၃။ ပိုင်သောရပ်ခြင်း။

တစ်ဦးတစ်ယောက်ရဲ့ ကောင်းတဲ့လုပ်ရပ်၊ စာရိတ္တမွန်တွေကို နှစ်ခြိုက်မြတ်နိုးပြီး ၎င်းကို ဂုဏ်ပေးလိုသောသဘောနဲ့ ရပ်ခြင်း၊ ထိုသို့ရပ်ရန် ကာယကံရှင်ဘက်မှ ဆန္ဒအာသီသလည်းမရှိ၊ စေခိုင်းခြင်းလည်းမရှိသောရပ်ခြင်း။

၄။ ရပ်သင့်သောအခြေအနေ။

ခရီးမှပြန်လာသူကို ခရီးဦးကြိုသော သဘောနဲ့ စလာမ်ပေး၊ လက်ဆွဲနှုတ်ဆက်ဖို့ ရပ်ခြင်း၊ (သို့) စည်းစိမ်ဥစ္စာတစ်ခုခုရရှိသူကို

ကောင်းချီးပေးတဲ့ သဘောမျိုးနဲ့ ရပ်ခြင်း၊ (သို့) ဒုက္ခရောက်နေသူကို ဖြေသိမ့်ရန် ရပ်ခြင်း။

ဒေယိုဗန်ဒ်ကျောင်းတော်ကြီးရဲ့ ဟဒီးဆ်ပါမောက္ခကြီး မွတ်ဖ်သီ စအီးဒ်အဟ်မဒ် (ပါလန်ပူရီ) သခင်ကြီးက တစ်ဦးတစ်ယောက်အတွက် မတ်တပ်ရပ်ခြင်းကို နှစ်မျိုးခွဲပြထားပါသေးတယ်။

၁။ အလေးအမြတ်ထား ဂုဏ်ပေးသော သဘောဖြင့်ရပ်ခြင်း။

ဤရပ်ခြင်းမျိုးမှာ နှစ်မျိုးပြန်ရှိပြန်ပါတယ်။ ပထမတစ်မျိုးကတော့ လူကြီးထိုင်ဝိုင်းမှာရှိနေသရွေ့ ဆက်တိုက် မတ်တပ်ရပ်နေခြင်း၊ (ဒါဟာ မက္ကရူးဟ်သဟ်ရီမီဖြစ်ပါတယ်။)

ဒုတိယအမျိုးကတော့ ခဏရပ်ပြီး လူကြီးထိုင်သောအခါမှ ထိုင်လိုက်ခြင်း။(ဤအမျိုးသည်လည်း ပထမထက်လျော့တဲ့မက္ကရူးဟ် ဖြစ်စေပါတယ်။)

၂။ လှိုက်လှဲပျူငှာတဲ့ သဘောနဲ့ရပ်ခြင်း။

ဒီလိုရပ်ခြင်းကတော့ ချစ်ခြင်းမေတ္တာ၊ သံယောဇဉ် စသည်တို့ပေါ် အခြေခံနေတဲ့အတွက် ပိုင်သွားရုံတင်မကဘဲ ပိုမိုပြီး ကောင်းမွန်ပါတယ်။

📖သွဟ်ဖသွလ် အလ်မအီကျမ်း၊ အတွဲ(၆)၊စာ(၅၂၃)

ရိုးရိုးသားသား အရိုအသေပေးပြီး ရပ်ကြတဲ့ အလေ့အထရှိတဲ့နေရာများမှာ ရပ်ခြင်းဟာ မွတ်စ်သဟာဗ်ဖြစ်တယ်လို့ အလ္လာမာဟ်ရှာမီ رحمه الله သခင်ကြီးက ရေးသားထားပါတယ်။

📖ရဒ်ဒွလ်မုဟ်သားရ်ကျမ်း၊ အတွဲ(၉)၊ စာ(၅၅၁)

ဟာဇရသ်ရှိုင်ခ်ရဲ့ ဖခင်ကြီး မော်လာနာ ယဟ်ယာ ﷲ رحمه သခင်ကြီး က “အရောင်အဆင်းကင်းတဲ့ ရိုးရိုးသားသား ရုပ်ခြင်းမှာ ဘာပြဿနာ မှ မရှိပါဘူး။ မက္ကရူဟ်ဖြစ်စေတဲ့လုပ်ရပ်၊ ရည်ရွယ်ချက်၊ အကြောင်းတရား တစ်ခုခုကြောင့်သာ ရုပ်ခြင်းဟာ မက္ကရူးဟ်ဖြစ်တတ်ပါတယ်။” လို့ အလ်အဗ်ဝါးဗ့် ဝသ္သရာဂျိမ်ကျမ်း၊ အတွဲ(၆)၊ စာ(၃၅၃)မှာ ဖော်ပြ ထားပါတယ်။

အေမာမ် ခသ်သ္ဗာဗီ ﷲ رحمه သခင်ကြီးကတော့ မာန်မာနကို အခြေခံပြီး မဖြစ်မနေရုပ်ခိုင်းခြင်းမျိုးသာ မက္ကရူဟ်ဖြစ်သည်ဟု ရေးသားဖော်ပြထားပါတယ်။

📖ရှိုအဗ္ဗလ်အီမာန်ကျမ်း၊ အတွဲ(၆)၊ စာ(၄၆၉)

# နိဂုံးချုပ်တင်ပြချက်

ဤမျှတင်ပြချက်များနဲ့သာ စလာမ်နဲ့စပ်လျဉ်းတဲ့ အမိန့်ပညတ်ချက်များကို အဆုံးသတ်လိုက်ရပါတယ်။

စာရှုသူများအနေနဲ့ ဖော်ပြခဲ့တဲ့ စလာမ်နဲ့သက်ဆိုင်တဲ့ အလှတရားများ၊ အနှစ်သာရများ၊ အမိန့်ပညတ်များ၊ အကြံပြုချက်များကို လေ့လာမှတ်သားရင်း မိမိတို့ရဲ့ လက်တွေ့ဘဝကို စလာမ်ပေးခြင်း၊ စလာမ်ပြန်ခြင်းများနဲ့ အလှဆင်ကြဖို့ မေတ္တာရပ်ခံအပ်ပါတယ်။

စာရှုများအနေနဲ့ စာရေးသူ၊ ဒီစာအုပ်ရေးသားဖို့ အကြံပြုတိုက်တွန်းသူများ၊ ဒီစာအုပ်ငယ်ထွက်ပေါ်ရေးအတွက်အဖက်ဖက်မှ ဝိုင်းဝန်းကူညီပေးခဲ့ကြတဲ့ ပညာရှင်များ၊ ၎င်းတို့ရဲ့မိဘ၊ ဘိုးဘွားများ၊ ဆရာသမားများအတွက်လည်း ဆုမွန်ကောင်းများတောင်းခံပေးပါရန် ထပ်မံမေတ္တာရပ်ခံရင်းဖြင့် ......................

မုဟမ္မဒ်အာစွင်းမ် နဒ်ဝီ၊)အဗ္ဗလ်ဟစနီ၊ မဇ္ဇာဟော့ရီ(

ဟစ်ဂျ်ရီ ၁၄၄၁ ခု၊ ရမ်ဇာန်လ (၂၆) ရက်

ခရစ်နှစ် (၂၀၂၀) ခု၊ မေလ (၂၀) ရက်

ဗုဒ္ဓဟူးနေ့